# ရှိတ်စပီးယား ပုံပြင်များ

မောင်သိန်းလွင်

# TALES from SHAKESPEARE



ILLUSTRATED

# ဒေါက်တာကျော်စိန် ၏
# အမှာစာ

၁၉၉၉–ခု၊ ဒီဇင်ဘာ(၃၁)ရက်နေ့ထုတ်၊ (TIME)မဂ္ဂဇင်းက ဝီလျံရှိတ်စပီးယား (WILLIAM SHAKESPEARE 1564-1616) ကို ရာစုနှစ်၏ လင်္ကာဆရာကျော်(BARD OF THE CENTURY) ဟု ဂုဏ်ပြုချီးကျူး ဖော်ပြခဲ့ပါသည်။

ရှိတ်စပီးယား၏ ပြဇာတ်အချို့ကို အစောဆုံး စကားပြေဖြင့် ဖွင့်ဆိုရေးသားခဲ့သူတို့အနက်၊ ချားလ်စ်နှင့် မေရီလင့်ဘ် (CHARLES & MARY LAMB) စာရေးဆရာ မောင်နှမသည် ထင်ရှားသည်။ သူတို့သည် ရှိတ်စပီးယား၏ အလွမ်းဇာတ် (၆) ပုဒ်နှင့် အသောဇာတ်(၁၄)ပုဒ်၊ စုစုပေါင်း ပုဒ်ရေ (၂၀)ကို စကားပြေဖြင့် ဖွင့်ဆိုရေးသားခဲ့သည်။

ယခု ဆရာ မောင်သိန်းလွင်၏ ဘာသာပြန်ပုံပြင်များတွင်မူ (၁) ဗင်းနစ်မြို့မှ ကုန်သည်ကြီး၊ (၂) ဂျူးလီယက်ဆီဇာနှင့် (၃) လီယာဘုရင်ကြီး ဟူ၍ အသောတစ်ပုဒ်၊ အလွမ်း(၂) ပုဒ်ပါဝင်ပေသည်။ ဂျူးလီယက်ဆီဇာကို ဆရာ မန်းတင် စကားပြေ သဘောမျိုး ပြန်ဖူးသည်။ လီယာဘုရင်ကြီး ပြဇာတ်ကိုမူ၊ ဆရာ မင်းသုဝဏ် ပြဇာတ်ပုံစံအတိုင်း ဘာသာပြန်ဆိုဖူးရာ အမျိုးသား စာပေဆုပင် ရခဲ့ဖူးသည်။ ဗင်းနစ်မြို့မှ ကုန်သည်ကြီးကိုမူ ဝတ္ထုပုံစံဖြင့် ရေးသူရိယ မဂ္ဂဇင်း ခေတ်ကပင် ဘာသာပြန်ဆိုခဲ့ကြောင်း သိရသည်။

ဤမျှထင်ရှားသော ပြဇာတ် (၃)ပုဒ်ကို ဆရာ မောင်သိန်းလွင်က စကားပြေပုံပြင်အဖြစ် အားထုတ်၍ ပြန်ဆိုခဲ့ပြီ။ မြန်မာစာဖတ်ပရိသတ်သည်လည်း နှစ်ဆယ်ရာစု ခေတ်လက်ာဆရာကျော်၏ ဂန္တဝင်မြောက် ပြဇာတ် (၃)ပုဒ်ကို စကားပြေဖြင့် အလွယ်တကူ ဖတ်ရှုအရသာ ခံနိုင်ပေပြီ။ အင်္ဂလိပ်စာကို လေ့လာသူများ အဖို့လည်း ဂန္တဝင်စာပေကို လွယ်ကူသော အင်္ဂလိပ်စကားပြေဖြင့် ဖတ်ရှုနိုင်ပေပြီဖြစ်ရာ "**သားရွှေအိုးထမ်းလာသည်ကိုမြင်ရသည့်ကိန်း ဆိုက်ပေပြီ**" ဟုသာ အမှာစကား ပါးလိုပါတော့သတည်း။

**ဒေါက်တာကျော်စိန်**

**၁၀–၈–၂၀၀၀**

# ဆရာ မောင်သိန်းလွင် ၏
# ရှိတ်စပီးယား ပုံပြင်များ

အချိန်တွေ မအားလပ်သည့်ကြားက ရေးအားကောင်းကောင်းနှင့် ရေးနေသည့် ဆရာ မောင်သိန်းလွင်ကို ကျွန်တော် ကျေးဇူးတင်ပါသည်။ ရေးအားကောင်းသလောက် စာအုပ်တွေကလည်း ဆက်တိုက်ထွက်လာသည်။ ထွက်လာသည့် စာအုပ်တွေကလည်း အင်္ဂလိပ်စာ လေ့လာနေသည့် လူငယ်များအတွက် ဖတ်သင့် ဖတ်ထိုက်နေသည့် စာအုပ်တွေ ဖြစ်နေသည်။

လူငယ်အများစု ဖတ်ရှုရန် လက်လှမ်းမမှီနိုင်သေးသည့် ဂန္ထဝင်စာအုပ်များကို လွယ်ကူအောင် ပြန်ရေးထားသည့် အင်္ဂလိပ်စာအုပ်များအား ရှာဖွေရွေးချယ် ဘာသာပြန်နေသည့် ဆရာ မောင်သိန်းလွင်၏ စေတနာနှင့် ကြိုးပမ်းအားထုတ်မှုကို ကျွန်တော် ချီးကျူးလေးစား ကျေးဇူးတင်ရခြင်း ဖြစ်ပါသည်။ ဘယ်သူ့အတွက် ကျေးဇူးတင်ရသလဲဟု မေးလျှင် ကျွန်တော်နှင့် ကျွန်တော့်သားသမီးများ၊ တပည့်များ၊ အင်္ဂလိပ်စာ လေ့လာလိုက်စားနေသည့် လူငယ်များအတွက်ဟု ကျွန်တော် ဖြေပါမည်။

ယခု ဆရာ ဘာသာပြန်သည့် ရှိတ်စပီးယားပုံပြင်များသည် ငယ်ငယ်တုန်းက ကျွန်တော် ဖတ်ခဲ့ရဖူးသည့် ပုံပြင်များ ဖြစ်နေသည်။ နှစ်ကာလကြာ၍ မေ့တော့တော့ဖြစ်နေတုန်း ဆရာ့စာအုပ်ကို ပြန်ဖတ်ရသောအခါ ငယ်ချစ်ဟောင်းနှင့် ပြန်တွေ့ရသကဲ့သို့ ကြည်နူးဝမ်းသာ နေမိပါသည်။

ကျွန်တော် အကြိုက်ဆုံးပုံပြင်မှာ **ဗင်းနစ်မြို့မှ ကုန်သည်ကြီး** ဖြစ်ပါသည်။ အကြိုက်ဆုံး စာသားလေးလည်း ပြောပြချင်ပါသေးသည်။ I cannot choose the man I wish to marry, or refuse those I dislike. **" ငါသဘောကျ နှစ်မြိုက်သူကို ရွေးချယ်ခွင့် မရှိသလို၊ ငါမချစ်ခင် မနှစ်သက်တဲ့ လူကိုလည်း ငြင်းပယ်နိုင်ခွင့် မရှိဘူးလေ"**

ဤကဲ့သို့ လှပသည့် စကားအသုံးအနှုန်းတွေ ရှိတ်စပီးယား ပုံပြင်ထဲတွင် အများကြီးပါသည်။ **"အပြင်မှာ အလှဆုံးဆိုတဲ့ အရာတွေဟာ (မကြာခဏ) အတွင်းမှာ အကျည်းတန်ဆုံးတွေ ဖြစ်နေတတ်တယ်"** ဆိုသော အတွေးလှလှလေးတွေလည်း အများကြီးပါသည်။ ပြီးတော့ လူ့သဘောသဘာဝတွေ ပီပြင်အောင် ဖွဲ့နွဲ့တင်ပြထားသည့် လီယာဘုရင်ကြီးအကြောင်းကို ဖတ်ရလျှင် သတိပြု ဆင်ခြင်စရာ သင်ခန်းစာ ရစရာတွေ အများကြီး ရနိုင်သည်။

ရှိတ်စပီးယား၏ စကားလုံး အဖွဲ့အနွဲ့များ၊ နက်ရှိုင်းသော အတွေးများကို ကျွန်တော် ဖတ်ရသဖြင့် ကျွန်တော်ရသည်။ ထို့ကြောင့် ဆရာ မောင်သိန်းလွင်ကို ကျွန်တော် ကျေးဇူးတင်နေခြင်း ဖြစ်ပါသည်။

ကျွန်တော်ကဲ့သို့ အသေအချာဖတ်ပြီး ဆရာမောင်သိန်းလွင်ကို ကျေးဇူးတင်ကြဦးမည့် လူတွေလည်း ရှိနေကြလိမ့်ဦးမည်ဟု ကျွန်တော် အသေအချာ ယုံကြည်မိပါသည်။

**ကောင်းသန့်**

**၁၈–၈–၂၀၀၀**

## ဘာသာပြန်သူ၏ အမှာ

၁၉၆၆–၆၇ ခုနှစ်လောက်က Six Tales From Shakespeare ဟူသော စာအုပ် . . . ကို၊ တက္ကသိုလ်ဝင်တန်း တပည့်များသို့ သင်ကြားပို့ချပေးခဲ့ဖူးပါသည်။ ဇာတ်လမ်းဇာတ်ကွက်သာမက အရေးအသား၊ အသုံးအနှုန်း၊ စကားလုံး ရွေးချယ်မှု စသည်တို့ကိုပါ . . . ကျွန်တော် စွဲမက်ခဲ့ရသော စာတစ်အုပ်ဖြစ်ပါသည်။

ရှိတ်စပီးယား မူလ ရေးသားစဉ်က (Acted play) ကပြရန် ပြဇာတ်များအဖြစ် ရေးသားခဲ့ခြင်း ဖြစ်သည်။ The Merchant of Venice တွင် ဇာတ်ခန်းဇာတ်ကွက် (Act) ငါးခု၊ ဇာတ်ဝင်ခန်း (Scene) ဆယ့်ကိုးခု . . .၊ Julius Caesar တွင် (Act) ငါးခု၊ (Scene) ဆယ့်ခုနစ်ခု . . .၊ King Lear တွင် (Act) ငါးခု၊ (Scene) နှစ်ဆယ့်ခြောက်ခု ပါဝင်သည်။

(Acted Play) ကပြရန် ပြဇာတ်အဖြစ်မှ၊ ဖတ်ရှုရန် (Printed Play) အဖြစ်သို့ ပြောင်းလဲရေးသားရန်မှာ လွယ်ကူသော်လည်း Tales အဖြစ် အနှစ်ချုပ်၍ မူရင်းအာဘော်မပျက်အောင် (Abridge) ပြန်လည်ရေးရန်မှာ မလွယ်ကူလှပါ။ Shakespeare ပြဇာတ်များကို Tales အဖြစ် (Abridge) ပြန်လည်ရေးသားသော ပညာရှင်၏အမည်ကို စာအုပ်တွင် မပါသဖြင့် မဖော်ပြနိုင်ပါ။ သို့သော် Shakespeare ၏စိတ်ကူးညဏ် . . . ခံစားမှု. . . တင်ပြမှု . . . တွေးဟန်၊ ရေးဟန်များ

မပျက်အောင် ထိန်းသိမ်းရေးသားနိုင်သော၊ ပညာရှင်ကြီးအား ကျွန်တော် ဦးညွှတ်ဂါရဝပြုရင်း၊ ဤစာအုပ်ကို မြန်မာဘာသာသို့ ပြန်ဆိုပါသည်။

မည်သို့ဆိုစေ . . အင်္ဂလိပ်စာကို ဝါသနာပါ၍ လေ့လာလိုက်စားနေဆဲ လူငယ်များအတွက် အနည်းငယ်မျှ အကျိုးရှိသည်ဟု ဆိုလျှင်ပင် ကျွန်တော် ဘာသာပြန်ရကျိုးနပ်ပြီဟု ဆိုရမည်ဖြစ်ပါသည်။

စေတနာအနန္တဖြင့်
**မောင်သိန်းဆွေ**
၂၉-၅-၂၀၀၀

## မာတိကာ

# ပေါ်သိန်းလွင်
# ရှိတ်စပီးယား
# ပုံပြင်များ

# THE MERCHANT OF VENICE

PEOPLE IN THE STORY

ANTONIO, a merchant of Venice.
BASSANIO, his friend
GRATIANO, another friend
PORTIA, a rich lady in love with Bassanio
NERISSA, her servant, in love with Gratiano.
SHYLOCK, a Jewish money-lender.
JESSICA, his daughter.
LORENZO, in love with Jessica.
DUKE OF VENICE.
MOROCCO
who wish to marry Portia
ARRAGON

LONG ago, there lived in Venice, a town in Italy, a man called Antonio. He was a merchant, owning many ships which traded with distant countries, and he was a good man as well as a rich one.

# ဗင်းနစ်မြို့မှ ကုန်သည်ကြီး

ဇာတ်ကောင်များ (ပုံပြင်တွင် ပါဝင်သူများ)

| | | |
|---|---|---|
| အန်တိုနီယို | = | ဗင်းနစ်မြို့မှ ကုန်သည်တစ်ဦး |
| ဘတ်ဆန်နီယို | = | သူ၏ သူငယ်ချင်း |
| ဂရက်တီယန်နို | = | အခြားသူငယ်ချင်းတစ်ယောက် |
| ပေါ်ရှား | = | ဘတ်ဆန်နီယိုနှင့် ချစ်ကျွမ်းဝင်နေသော သူဌေးမလေး တစ်ဦး |
| နာရစ်ဆာ | = | သူ(မ)၏ အစေခံ၊ ဂရက်တီယန်နိုနှင့် ချစ်ကျွမ်းဝင်နေသူ |
| ရှိုင်းလော့ | = | ဂျူးလူမျိုး ငွေတိုးချေးစားသူတစ်ဦး |
| ဂျက်စီကာ | = | သူ၏ သမီး |
| လော်ရန်ဇို | = | ဂျက်စီကာနှင့် ချစ်ကျွမ်းဝင်သူ |
| ဗင်းနစ်မြို့ဝန် | | |
| မော်ရိုကိုမင်းသား<br>အာရဂွန်မင်းသား | ] | ပေါ်ရှားအား လက်ထပ်လိုသူများ |

ဟိုး . . ကြာမြင့်ခဲ့တဲ့ တစ်ချိန်တုန်းကပေါ့၊ အီတလီပြည် ဗင်းနစ်မြို့မှာ အန်တိုနီယို လို့ ခေါ်တဲ့ လူတစ်ယောက် နေထိုင်ခဲ့ပါတယ်။ သူက ကုန်သည်ကြီးတစ်ယောက်ဖြစ်တယ်။ ဝေးကွာတဲ့ နိုင်ငံရပ်ခြားတိုင်းပြည်များနဲ့ ကူးသန်းသွားလာနေတဲ့(ပင်လယ်ကူး)သင်္ဘောများစွာကို ပိုင်ဆိုင်သူ ဖြစ်တယ်။ သူက သူဌေးတစ်ယောက်ဖြစ်သလို (လူကောင်းသူကောင်း) သနားကြင်နာတတ်သူတစ်ဦးလည်း ဖြစ်ပါတယ်။



Antonio's greatest friend was a young soldier, Bassanio, who loved a beautiful lady called Portia. But Bassanio was not a wealthy man, and he did not like to ask Portia to marry him, because she was as rich as she was beautiful. At last, however, he asked Antonio to lend him some money, so that he could visit Portia at Belmont, where she lived, and at least find out if she loved him.

It happened that at this time all Antonio's ships were at sea, and until they returned he had no money to lend Bassanio.



အန်တိုနီယိုရဲ့ အချစ်ဆုံး သူငယ်ချင်းက **ဘတ်ဆန်နီယို**လို့ခေါ်တဲ့ စစ်သားလေးတစ်ယောက် ဖြစ်တယ်၊ သူက **ပေါ်ရှား**လို့ခေါ်တဲ့ မိန်းမချောလေးတစ်ယောက်ကို မေတ္တာသက်ဝင်နေသူပေါ့။ ဒါပေမယ့်. . သူက လူချမ်းသာ တစ်ယောက်မဟုတ်လေတော့ **ပေါ်ရှား**ကို လက်ထပ်ခွင့်ပေးပါလို့ မတောင်းဆိုရဲရှာဘူး၊ ချစ်ရေးဆိုဖို့ တွန့်ဆုတ်နေရှာတယ်၊ သူ(မ)က ချောမောလှပသလောက် ကြွယ်ဝချမ်းသာတဲ့ သူ. . . ဥစ္စာပေါ ရုပ်ချောကိုး။ နောက်ဆုံးမှာတော့. . . သူ့ကို ပိုက်ဆံချေးပါလို့ **အန်တိုနီယို** ကို တောင်းပန်တယ်၊ **ပေါ်ရှား**နေတဲ့ ဘဲလ်မောင့် မြို့ကိုသွားနိုင်ဖို့. . .၊ (ဘာပဲဖြစ်ဖြစ်) အနည်းဆုံး. . . သူ့အပေါ် ပေါ်ရှားက ချစ်တုံ့ပြန်နိုင်၊ မပြန်နိုင် (ကိုယ်တိုင်ဖော်ထုတ်) သိရှိချင်လို့လေ. . .။

အဲဒီအချိန်မှာ. . ကြုံကြိုက်ချင်တော့၊ **အန်တိုနီယို**ရဲ့ သင်္ဘောအားလုံးက ပင်လယ်ပြင်မှာ ရောက်နေတယ်လေ. .၊ အဲဒီသင်္ဘောတွေ ပြန်မရောက်မချင်း **ဘတ်ဆန်နီယို**ကို ချေးဖို့ ငွေမရှိဘူး. . .။



'But go to a money-lender,' he said to his friend. 'Borrow the money you need from him, and tell him that, when my ships come in, I will pay him back all that he has lent you.'

Now, there lived in Venice and old Jew named Shylock. The Jews in those days were the money-lenders of Venice. They lent money, but they forced people to pay so heavily for the loan that the Jews themselves became very rich. Shylock was one of the greediest Jews in Venice. Antonio hated him for his wicked ways, and he had often insulted the Jew and spoken rudely to him. For this reason, Shylock hated Antonio too, and was anxious to revenge the insults.

"ဒါပေမယ့် . . . ငွေတိုးချေးစားတဲ့သူတစ်ယောက် ယောက်ဆီကို သွားကွာ. . .၊ မင်းလိုတဲ့ငွေကို သူ့ဆီက ချေးပါ. . .၊ ငါ့ရဲ့ သင်္ဘောတွေ ပြန်ရောက်ရင်၊ မင်းချေးယူထားတဲ့ ငွေအားလုံးကို ငါကပေးမယ်လို့ (အာမခံကြောင်း) ပြောပြပါ. . ." လို့ သူ့သူငယ်ချင်းကို ပြောပါတယ်။

အဲဒီအချိန်မှာ. . . ရှိုင်းလော့ လို့ခေါ်တဲ့ ဂျူးလူမျိုး၊ အဘိုးကြီးတစ်ယောက်လည်း ဗင်းနစ်မြို့မှာ နေထိုင်(နေ)တယ်။ အဲဒီခေတ်က ဂျူးလူမျိုးတွေဟာ ဗင်းနစ်မြို့မှာ ငွေတိုးချေးစားသူတွေပေါ့၊ သူတို့က ငွေချေးတယ်၊ ဒါပေမယ့် ချေးတဲ့ငွေပေါ်မှာ အတိုးနှုန်း အများကြီးပေးဖို့ ငွေချေးတဲ့သူတွေကို ဇွတ်အတင်းတောင်း(ဆို)တယ်၊ ဒါ့ကြောင့် ဂျူးတွေဟာ အရမ်းကို ချမ်းသာလာကြတယ်။ ရှိုင်းလော့ဟာ လောဘအကြီးဆုံး ဂျူးတွေထဲက တစ်ယောက်ပေါ့၊ သူ့ရဲ့ ကောက်ကျစ်ယုတ်မာတဲ့ မနှစ်မြို့ဖွယ် လုပ်ရပ်တွေကြောင့် (သူ့ကို) အန်တိုနီယိုက မုန်းတယ်၊ ဒါကြောင့်(ရှိုင်းလော့ကို တွေ့ရင်) မကြာခဏဆိုသလို စော်ကားမော်ကားပြုတယ်၊ ရိုင်းရိုင်းစိုင်းစိုင်း ပြောဆိုဆက်ဆံတယ်၊ အဲဒီအကြောင်း(ရင်း) ကြောင့်ပဲ. . . ရှိုင်းလော့ကလည်း အန်တိုနီယိုကို မုန်းတယ်။ အဲဒီ စော်ကားမှုတွေအတွက် ကလဲ့စားချေလိုစိတ်တွေ ပြင်းပြ(နေ)ပါတယ်။



Bassanio, knowing that Shylock was very rich, went to him to borrow the money he needed. Shylock was delighted when he heard that Anaonio had promised to pay back the loan. He thought that his enemy had been given into his hands, and he made a wicked plan. He pretended to be generous, and said he would lend Bassanio the money and would not charge him anything for the loan.

'But Antonio must pay me back in three months,' Shylock said. 'And, just for a joke, he must sign a bond promising that I may cut off a pound of flesh from his body if the money is not paid.'

ရှိုင်းလော့က သိပ်ချမ်းသာမှန်းသိတော့ ဘတ်ဆန်နီယိုက သူလိုအပ်နေတဲ့ ပိုက်ဆံကို ရှိုင်းလော့ထံမှ ချေးတယ်။ ချေးငွေအတွက် အန်တိုနီယိုက ပြန်ပေးမယ်လို့ ကတိပြု(အာမခံ)ကြောင်း ကြားရတဲ့အခါ။ ရှိုင်းလော့က သိပ်သဘောကျသွားတာပေါ့။ သူ့ရန်သူတော့ သူ့လက်ထဲရောက်လာပြီလို့ တွေးမိပြီး၊ ကောက်ကျစ်စဉ်းလဲတဲ့ အစီအစဉ်တစ်ခုကို လုပ်တယ်။ သူက သဘောထားကြီးဟန်. . . ရက်ရောပြီး စေတနာအပြည့်ထားဟန်ဆောင်(လိုက်)တယ်၊ ပြီးတော့ ဘတ်ဆန်နီယို လိုတဲ့ငွေကို အတိုးတစ်ပြားမှမယူဘဲ ချေးငှားပါမယ်. . . လို့ ပြောတယ်။

"ဒါပေမယ့်. . . အဲဒီချေးငွေကို အန်တိုနီယိုက သုံးလအတွင်း ပြန်ဆပ်ရမယ်၊ အဲ. . . ပျော်စေပြက်စေပေါ့လေ. . . ရယ်စရာတစ်ခုအနေနဲ့၊ စာချုပ်တစ်ခုကိုတော့ လက်မှတ်ထိုးရမယ်. . . ချေးငွေကိုပြန်မဆပ်ရင် သူ့ရဲ့ခန္ဓာကိုယ်ပေါ်က "အသားတစ်ပေါင်"ကို ငါက လှီးယူပိုင်ခွင့်ရှိတယ်. . . လို့ ကတိပြုတဲ့စာချုပ်ပဲ. . . "လို့ ရှိုင်းလော့က ပြောတယ်။



Bassanio had no faith in Shylock, and did not like Antonio to make such a terrible promise; but Antonio thought that Shylock was really joking, and he said: ‘I am indeed content to sign such a promise. Do not be afraid, Bassanio. My ships will return a month before the money is due, and then I shall have three times as much as Shylock has lent to you.’ And Antonio signed the bond.

‘I do not like this promise,’ said Bassanio uneasily, but Antonio said again: ‘You need have no fear. My ships will come home a month before the day.’



ဘက်ဆန်နီယိုက ရှိုင်းလော့ကို အယုံအကြည် မရှိဘူး၊ အန်တိုနီယိုအနေနဲ့ ဒီလို ကြောက်မက်ဖွယ်ကောင်းတဲ့ ကတိတစ်ခု(စာချုပ်တစ်ခု)ကို မပြုလုပ်စေချင်ဘူး၊ ဒါပေမယ့် အန်တိုနီကတော့၊ ရှိုင်းလော့ဟာ တကယ့်ကို. . . ရယ်စရာ ပြောနေတာလို့ထင်ပြီး. . .

"ဒီလို ကတိစာချုပ်မျိုး. . . လက်မှတ်ထိုးဖို့ တကယ့်ကို သဘောကျကျေနပ်(သဘောတူ) ပါတယ်ဗျာ. . .၊ မစိုးရိမ်စမ်းပါနဲ့ ဘတ်ဆန်နီယို၊ ငါ့သင်္ဘောတွေဟာ ပြန်ဆပ်ဖို့ ရက်ချိန်းမစေ့မီ တစ်လလောက်ကြိုပြီး ရောက်လာမှာပါကွာ. . .၊ အဲဒီ အချိန်ဆိုရင် ရှိုင်းလော့က မင်းကို ချေးလိုက်တဲ့ ငွေရဲ့ သုံးဆလောက်၊ ငါ့မှာ ရှိနေပါလိမ့်မယ်. . ." လို့ အန်တိုနီယိုက ပြောပြီး. . . စာချုပ်ကို လက်မှတ်ထိုးလိုက်ပါတော့တယ်။

"ဒီကတိ(စာချုပ်)ကို ငါတော့ ဘဝင်မကျဘူးကွာ. ." လို့ ဘက်ဆန်နီယိုက စိတ်မသက်မသာနဲ့ ပြောတယ်၊ ဒါပေမယ့် အန်တိုနီယိုက ထပ်ပြောတယ်. . .၊ "မင်းဘာမှ စိုးရိမ်စရာမလိုပါဘူး. . .၊ အဲဒီရက်ချိန်းစေ့တဲ့နေ့မတိုင်မီ၊ တစ်လလောက်ကြိုပြီး ငါ့ရဲ့သင်္ဘောတွေ ပြန်ရောက်လာမှာပါကွ. ."




So Bassanio unwillingly took the money, said goodbye to Antonio, and sailed away to Belmont. He took one of his friends with him, a young man called Gratiano.

The beautiful Portia lived in a big house in Belmont with her servant-companion, Nerissa. Her father had died recently and had left her a great deal of money. He had been a wise old man, and, to protect his daughter from greedy men who might try to marry her because she was so rich, he left Portia three boxes. One of the boxes contanined her picture, and whoever chose this box was to be Portia's husband.

ဒါကြောင့် ဘတ်ဆန်နီယိုလည်း စိတ်မပါ လက်မပါ၊ တွန့်ဆုတ်စွာနဲ့ အဲဒီငွေကို ယူလိုက်တယ်၊ အန်တိုနီယိုကို နှုတ်ဆက်ပြီး၊ ဘဲလ်မောင့်မြို့သို့ ရွက်လွှင့်ထွက်ခွာခဲ့ပါတယ်။

သူ့သူငယ်ချင်းတွေထဲက တစ်ယောက်ဖြစ်တဲ့ ဂရက်တီယန်နိုကိုလည်း သူနဲ့အတူ ခေါ်သွားပါတယ်။

လှပတဲ့ ပေါ်ရှားလေးဟာ၊ ဘဲလ်မောင့်မြို့က အိမ်ကြီးအိမ်ကောင်းတစ်ဆောင်မှာ သူ့ရဲ့ အစေခံအဖော် နာရစ်ဆာနဲ့ အတူ နေထိုင်(နေ)ပါတယ်။ သူ(မ)ရဲ့ဖခင်ဟာ မကြာခင်ကမှ သေဆုံးသွားခဲ့တာဖြစ်ပြီး သူ(မ)အတွက် ငွေကြေးအမြောက်အမြား ထားခဲ့ပါတယ်၊ သူဟာ ဉာဏ်ပညာအမြော်အမြင် ရှိတဲ့သူတစ်ယောက်ဖြစ်တယ်၊ သူ့သမီးက အရမ်းကို ချမ်းသာသူ (သူဌေးသမီး)ဆိုတော့၊ လောဘကြီးတဲ့ (သိုက်တူးမယ့်) ယောကျ်ားတွေက သူ့သမီးကို လက်ထပ်ဖို့ကြိုးစားနိုင်တယ်၊ အဲဒီလို လောဘကြီးတဲ့ (သိုက်တူးတဲ့) လူတွေရဲ့ရန်ကနေ အကာအကွယ်ပေးဖို့. . .၊ သူက သမီးဖြစ်သူ ပေါ်ရှားအတွက် သေတ္တာသုံးလုံး ထားခဲ့တယ်၊ သေတ္တာသုံးလုံး အနက် တစ်လုံးထဲမှာ ပေါ်ရှားရဲ့ဓါတ်ပုံ ပါ(ရှိ)တယ်၊ ဒီ သေတ္တာကို ရွေးချယ်နိုင်တဲ့သူ (ဘယ်သူမဆို)မှ ပေါ်ရှားရဲ့ ကြင်ရာခင်ပွန်းဖြစ်နိုင်တယ်။



Just before Bassanio arrived from Venice, a king's son came from Africa to visit Portia. This man, Morocco, was powerful and wealthy, and he wished to marry her; but Portia did not love him and she hoped that he would choose the wrong box.

'Is it not hard, Nerissa?' she confided to her servant. 'I cannot choose the man I wish to marry, or refuse those I dislike.'

'You have plenty of admirers to choose from,' Nerissa said. 'But do you remember a young man from Venice sho once visited your father?'

'Yes, yes,' Portia answered. 'It was Bassanio-I think that was his name?'

'True, madam,' said Nerissa. ' And I think he deserved your love more than any of the others.'

ဗင်းနစ်မြို့ကနေ ဘတ်ဆန်နီယို မရောက်ခင်လေးမှာ. . .၊ အာဖရိကတိုက်မှ ဘုရင့်သားတော်တစ်ပါး ပေါ်ရှားဆီရောက်လာတယ်၊ မော်ရိုကို မင်းသားပေါ့။ သူက တန်ခိုးဩဇာရှိတယ်၊ ကြွယ်ဝချမ်းသာတယ်၊ ပေါ်ရှားကို (ကြင်ရာတော်အဖြစ် သိမ်းပိုက်)လက်ဆက်လိုတယ်။ ဒါပေမယ့် ပေါ်ရှားက သူ့ကိုမချစ်ဘူး၊ "သေတ္တာအမှား"ကို ရွေးချယ်မိပါစေလို့ မျှော်လင့်(ဆုတောင်း)မိတယ်။

ပေါ်ရှားက နာရစ်ဆာကို (လူယုံ. . မို့ အတွင်းစကား)ပြောတယ်။ "မခက်ဘူးလား. . . နာရစ်ဆာ. . ?၊ ငါ့သဘောကျနှစ်ခြိုက်တဲ့သူကို ရွေးချယ်နိုင်ခွင့် မရှိသလို ငါမချစ်ခင် မနှစ်သက်တဲ့လူကိုလည်း. . ငြင်းပယ်နိုင်ခွင့် မရှိဘူး. . . လေ"

နာရစ်ဆာက"ရှင့်ကို လိုလားနှစ်သက်နေတဲ့သူတွေ အများကြီးရှိတာပဲ (ရွေးချယ်စရာလူတွေ အများကြီးရှိတာပဲ)၊ ဒါပေမယ့်. . . ဗင်းနစ်မြို့က လူငယ်လေးတစ်ယောက်ကို ရှင်သတိရသေးလား၊ တစ်ခါတုန်းက ရှင့်ဖခင်ဆီ လာရောက်လည်ပတ်ဖူးတယ်လေ. . . "

"အာ. . ဟုတ်ပြီ. . ဟုတ်ပြီ၊ ဘတ်ဆန်နီယို. . .၊ ငါထင်တယ်. . . သူ့နာမည်က ဘတ်ဆန်နီယို ဆိုလား. . . "

"ဟုတ်တာပေါ့(သခင်မ)ရှင်၊ ကျွန်မအထင် ပြောရရင် အခြားအခြားလူတွေထက် သူက သခင်မရဲ့ မေတ္တာနဲ့ ပိုမိုထိုက်တန်တယ်လို့ ထင်တယ်"လို့ နာရစ်ဆာက (ပြန်) ပြောတယ်။



'I remember him well, and I remember he was worthy of your praise,' said Portia sadly. 'But I cannot marry him unless he comes and chooses the right box.'

'Perhaps he will,' Nerissa comforted her. 'Your father was a wise and virtuous man. I am sure he will have arranged the boxes so that the right man will choose the picture.'

Nerissa's sensible suggestion made Portia feel more cheerful as she showed the three boxes to the dark-skinned African from Morocco.



"သူ့ကို ငါ. . . ကောင်းကောင်းမှတ်မိပါတယ်၊ မင်းချီးကျူးတာကို ခံထိုက်တဲ့သူပေပဲ. . .၊ ဒါပေမယ့်. . . သူ (ဒီကို)လာပြီး သေတ္တာအမှန်ကို ရွေးချယ်မှုမပြုရင်၊ ငါက သူ့ကို လက်ထပ်လို့ရနိုင်တာမှ မဟုတ်ဘဲလေ. . ." လို့ ပေါ်ရှားက ကြေကြေကွဲကွဲလေး ပြောရှာတယ်။

"သူလာမှာပါ"လို့ နာရစ်ဆာက နှစ်သိမ့်တယ်၊ "သခင်မရဲ့ ဖခင်ဟာ ဉာဏ်ပညာအမြော်အမြင်ရှိတဲ့ ပါရမီရှင်တစ်ယောက်ပဲ၊ ကျွန်မ ကျိန်းသေပြောရဲတယ်၊ ထိုက်တန်တဲ့သူ (သတို့သား)သာ သခင်မရဲ့ ရုပ်ပုံလွှာကို ရွေးချယ်နိုင်စေဖို့ သူက သေတ္တာတွေကို စီစဉ်ခဲ့ပြီးဖြစ်မှာပါ. . ."

နာရစ်ဆာရဲ့ ကျိုးကြောင်းဆီလျော် အမြော်အမြင်ရှိတဲ့ အကြံဉာဏ်အဆိုပြုချက်က ပေါ်ရှားရဲ့ စိတ်အစဉ်ကို ရွှင်ပျလန်းဆန်းသွားစေတယ်၊ အသားရောင်မည်းနက်တဲ့ အာဖရိကတိုက်မှ. . . မော်ရိုကိုမင်းသားကို သေတ္တာတွေ ပြနေတဲ့အခိုက်မှာ သူ(မ)ရဲ့စိတ်က ပေါ့ပါးသက်သာသွားပါတယ်။



He examined them carefully, and read the words written on the outside of each one. On the gold box was written;

*Whoever chooses me shall gain what many men desire.*

On the silver box was written:

*Whoever chooses me shall get as much as he deserves.*

And on the plain box, made of lead, was written:

*Whoever chooses me must give and risk all that he has.*

'What many men desire,' Morocco said, looking at the golden box. ' That must be the fair Portia, and her picture will certainly be inside a box of gold.'

မော်ရိုကိုမင်းသားက သေတ္တာတွေကို ဂရုတစိုက် စစ်ဆေးကြည့်ရှုတယ်၊ သေတ္တာတစ်လုံးစီရဲ့အပေါ်မှာ ရေး ထားတဲ့ စာလုံးတွေကိုဖတ်တယ်၊ ရွှေသေတ္တာပေါ်မှာ ရေးထား တာက. . .

**"ကျွန်ုပ်အား ရွေးချယ်သူသည် ယောက်ျားတကာတို့ လိုလားတောင့်တသောအရာကို ရပေလိမ့်မည်"**

ငွေသေတ္တာပေါ်မှာ ရေးထားတာက -

"ကျွန်ုပ်အား ရွေးချယ်သူသည်၊ သူနှင့် ထိုက်တန် သည့်အရာကို ရပေလိမ့်မည်"

ခဲသေတ္တာရိုးရိုးလေးပေါ်မှာ ရေးထားတာ -

"ကျွန်ုပ်အား ရွေးချယ်သူသည်၊ မိမိ၏ရှိသမျှ အရာ ရာအားလုံးကို ပေးဆပ်စွန့်စားရပေလိမ့်မည်။"

ရွှေသေတ္တာကိုကြည့်ပြီး မော်ရိုကို မင်းသားက ပြော လိုက်တယ်၊ "ယောက်ျားတွေ ဘာကိုလိုလား တောင့်တ သလဲ . . .၊ အလှအချော ပေါ်ရှားပဲ ဖြစ်ရမယ်ပေါ့၊ ဒီတော့ သူ(မ)ရဲ့ ရုပ်ပုံလွှာဟာ ကျိန်းသေရွှေသေတ္တာထဲမှာ ရှိရ မယ် . . ."



He opened it, but all he found inside was an ugly skull , and a piece of paper containing these words:

*All that shines is not gold. Goodbye!*

So Morocco sadly said goodbye to Portia and returned to Africa.

The next visitor was the prince of Arragon, and he, too, was shown the three boxes. Arragon was a vain young man with a very high opinion of himself, and he chose the silver box.

'If I get as much as I deserve,' he said,' I shall certainly gain the fair Portia.'

But the box contained nothing but a fool's head and these words:

*Many fools are hidden behind a silver covering.*

*So be gone, sir!*

The prince feeling very silly, went away as sadly as Morocco had done.

သူက ရွှေသေတ္တာကို ဖွင့်လိုက်တယ်၊ ဒါပေမယ့် (ရွှေ သေတ္တာ)အထဲမှာ သူတွေ့တာကတော့၊ စက်ဆုပ်ဖွယ် ကောင်းလှတဲ့ အရိုးခေါင်းခွံကြီးတစ်ခုနဲ့ စာရွက်ကလေး တစ်ရွက် ...၊ စာရွက်ပေါ်မှာကတော့ ...

"အရောင်လက်တိုင်း ရွှေမဟုတ်ဘူး ...

ဝါဝါမြင်တိုင်း ရွှေမဟုတ်ပါ ... တဲ့တာ"

ဒါကြောင့် မော်ရိုကို မင်းသားလည်း ပေါ်ရှားကို ကြေကွဲစွာနဲ့နှုတ်ဆက်စကားဆိုပြီးအာဖရိကသို့ ပြန်သွားပါ တယ်။

နောက်ထပ်ရောက်လာတဲ့ ဧည့်သည်တော်ကြီးက တော့ အာရဂွန် မင်းသားဖြစ်ပါတယ်၊ သူ့ကိုလည်း သေတ္တာ သုံးလုံးကိုပြလိုက်ပါတယ်၊ အာရဂွန်မင်းသားက မာနတက် ဂုဏ်မောက်နေတဲ့ လူငယ်တစ်ယောက် ...၊ သူ့ကိုယ်သူ စိတ်ကြီးဝင်နေတဲ့သူ ...၊ ဒီတော့ သူက ငွေသေတ္တာကို ရွေးတယ်၊ သူက ပြော(လိုက်သေး) တယ်...

"ငါနဲ့ ထိုက်တန်ရာကိုရမယ်ဆိုရင်၊ ငါဟာအလှ ပဂေးလေး ပေါ်ရှားကို ရမှာသေချာတယ်"

ဒါပေမယ့် သေတ္တာထဲမှာက အရူး(ပျော်တော်ဆက် လူပျက်)ရဲ့ ခေါင်းပိုင်းပုံနဲ့ ...၊ စာ ...

"အပေါ်ယံငွေမှုန်ကြဲ .. အထဲက နွားချေးခံ ကွပေ တော့... ပြန်"

မင်းသားလည်း စိတ်ဓါတ်တွေကျပြီး၊ မော်ရိုကို မင်း သား ကြေကွဲစွာနဲ့ ပြန်သွားရသလို သူလည်း ပြန်သွားခဲ့ရ ပါတယ်။

11




Then Bassanio and Gratiano arrived, and Bassanio begged Portia to permit him to try his luck with the three boxes. She was very much afraid that he might choose the wrong box, but she dared not tell him which was the right one. He looked at the box of gold and the box of silver, and shook his head.

'The things which are most beautiful outside are often the ugliest within,' he said. 'I choose the plain lead box.'

Portia was filled with joy as Bassanio opened the box and found inside a lovely picture of her. They arranged to be married at once, and Bassanio's friend, Gratiano asked for permission to marry. Nerissa at the same time.

အဲဒီနောက်ပိုင်းမှာ ဘတ်ဆန်နီယိုနဲ့ ဂရက်တီယန်နီတို့ ရောက်ရှိလာကြပါတယ်၊ သေတ္တာသုံးလုံးနဲ့ပတ်သက်ပြီး ကံစမ်းခွင့်ပြုဖို့ ဘတ်ဆန်နီယိုက ပေါ်ရှားကို တောင်းပန်တယ်၊ သေတ္တာအမှားကြီး. . . သွားပြီး ရွှေမိမှာကို သူ(မ)က သိပ်စိုးရိမ်တယ်၊ ဒါပေမယ့် ဘယ်သေတ္တာဟာဖြင့် သေတ္တာအမှန်ပါ. . လို့ သူ(မ)က မပြောရဲဘူးလေ၊ ဘတ်ဆန်နီယိုက ရွှေသေတ္တာကိုကြည့်တယ်၊ နောက်. . . ငွေသေတ္တာကိုကြည့်တယ်၊ ပြီးတော့ သူ့ခေါင်းကို ခါလိုက်တယ်။

"အပြင်မှာ အလှဆုံးဆိုတဲ့အရာတွေဟာ (မကြာခဏဆိုသလို)အတွင်းမှာ အကျည်းတန်ဆုံးအရာတွေ ဖြစ်နေတတ်တယ်။ (ဒါကြောင့်) ငါက ခဲသေတ္တာရိုးရိုးကိုပဲရွေးမယ်. . . "

ဘတ်ဆန်နီယိုက သေတ္တာကို ဖွင့်လိုက်တော့ အထဲမှာ လှပတဲ့ သူ(မ)ရဲ့ ရုပ်ပုံလွှာလေးကို တွေ့တယ်၊ ပေါ်ရှားက ဝမ်းသာ ပျော်ရွှင်မှုတွေနဲ့ ပြည့်လျှမ်းသွားပါတယ်။ ချက်ချင်းပဲ လက်ထပ်ကြဖို့ သူတို့ စီစဉ်ကြတယ်၊ ဘတ်ဆန်နီယိုရဲ့ သူငယ်ချင်း ဂရက်တီယန်နီကလည်း နာရစ်ဆာနဲ့ (သူတို့ လက်ထပ်တဲ့အချိန်မှာပဲ) တစ်ချိန်တည်း၊ လက်ထပ်ခွင့်ပြုဖို့ တောင်းဆိုတယ်။



But their happiness was soon disturbed by bad news. A ship arrived from Venice, bringing a friend of Bassanio's called Lorenzo. With Lorenzo was his wife,Jessica, the beautiful daughter of Shylock the Jew. Shylock had always been harsh and cruel to Jessica, and she knew he would never consent to her marrying Lorenzo; first, because he was not a Jew, and secondly because he was a friend of Antonio's. So one night she ran away from her father's house to marry Lorenzo, taking with her a great deal of money and some jewels.



ဒါပေမယ့် သူတို့ရဲ့ ပျော်ရွှင်မှုတွေဟာ မကြာမီမှာပဲ ပျက်ပြားသွားပါတယ်၊ သူတို့ဆီကို(တုန်လှုပ်ဖွယ်)သတင်းဆိုးတွေ ရောက်လာလို့လေ. . .၊ ဘတ်ဆန်နီယိုရဲ့ သူငယ်ချင်း လော်ရန်ဇိုကို သယ်ဆောင်လာတဲ့ သင်္ဘောတစ်စီး ဗင်းနစ်မြို့မှ ရောက်လာတယ်။ လော်ရန်ဇိုနဲ့အတူ သူ့ရဲ့ဇနီး ဂျက်စီကာ လည်းပါတယ်၊ ဂျူးလူမျိုး ရှိုင်းလော့ရဲ့ သမီးချော လေးပေါ့၊ ရှိုင်းလော့က သူ(မ)ရဲ့အပေါ်မှာ အမြဲတမ်းကြမ်းတမ်း ခက်ထန်တယ်၊ ရက်စက်တယ်၊ သူ(မ)အနေနဲ့ သိထားတယ်လေ။ သူ(မ)ရဲ့ဖခင်ဟာ သူ(မ)ကို (သူ(မ)ရဲ့ချစ်သူ) လော်ရန်ဇိုနဲ့ ဘယ်တော့မှ လက်ထပ်ခွင့်ပေးမှာ မဟုတ်ဘူး၊ သဘောတူမှာမဟုတ်ဘူးဆိုတာ. . .ကို (သဘောမတူရတဲ့) ပထမအချက်က သူ(လော်ရန်ဇို) က ဂျူးတစ်ယောက် မဟုတ်ဘူး၊ ဒုတိယအချက်က သူဟာ အန်တိုနီယိုရဲ့ သူငယ်ချင်းဖြစ်နေလို့. . .ပါပဲ။ ဒါကြောင့် တစ်ညမှာ . . . လော်ရန်ဇိုနဲ့ လက်ထပ်ဖို့ သူ(မ)ရဲ့ ဖခင်အိမ်ကနေ ထွက်ပြေးလာခဲ့ပါတယ်၊ သူ(မ)နဲ့အတူ ပိုက်ဆံတွေ အမြောက်အမြားရယ်. .လက်ဝက်လက်စား ကျောက်မျက်ရတနာတွေရယ် ကိုလည်း ယူလာခဲ့ပါတယ်။



They had come to Belmont to escape Shylock's anger, and they brought with them a letter to Bassanio from Antonio. Bassanio read the letter, and he turned so pale that Portia feared that his friend must be dead.

'What is it, Bassanio?' she asked anxiously. 'You must let me share the bad news that this letter brings.'

'Oh, sweet Portia,' said Bassanio. 'Here are some of the most unpleasant words that have ever been written.'



ရှိုင်းလော့ရဲ့ ဒေါသမာန်ရှတဲ့ အရေးက ကင်းဝေး လွတ်မြောက်စေဖို့ . . ၊ သူတို့ ဘဲလ်မောင့်ကို ရောက်ရှိလာ ကြတာဖြစ်ပါတယ်၊ သူတို့နဲ့အတူ အန်တိုနီယိုက ဘတ်ဆန်နီယိုထံ ရေးလိုက်တဲ့စာတစ်စောင်လည်း ပါ. . . လာပါတယ်။ ဘတ်ဆန်နီယိုက စာကိုဖတ်ပြီးတဲ့အခါ သူ့မျက်နှာဟာ သွေးဆုတ်ပြီး ဖြူဖပ်ဖြူရော်ဖြစ်သွားတယ်၊ ပေါ်ရှားအနေနဲ့ စိုးရိမ်သွားတယ်. . . သူ့သူငယ်ချင်း သေသွားတာဖြစ်မယ်. . .

သူ(မ)က စိုးရိမ်စိတ်နဲ့ မေးလိုက်တယ် “ဘာသတင်း ဆိုးတွေ ပါသလဲ. . . ဘတ်ဆန်နီယို၊ ဒီစာထဲမှာပါတဲ့ သတင်းဆိုးတွေကို ကျွန်မလည်း မျှဝေခံစားပါရစေ. . .”

“အို. . . အချစ်လေး ပေါ်ရှားရယ်. . .၊ ဒီစာထဲမှာ အနှစ်မြို့ဖွယ်၊ အကောင်းဆုံးစကားလုံးတွေ (သတင်းဆိုးတွေ) ကို ရေးထားတယ်. . .”



The letter told him that Antonio's six ships, full of riches, had all been wrecked at sea, and Antonio's money had been lost with them. And this was not all. Shylock hated Antonio more than ever since his friend, Lorenzo, had run away with Jessica. He was so angry at the loss of his daughter and his money that he walked the streets crying. 'My daughter! My money! My jewels! Justice, justice! Find me my money and my daughter!' And when he heard that all Antonio's ships were lost, he was very glad. Now he could revenge himself on Antonio and on all those who loved the brave young merchant.



အဲဒီစာထဲမှာ အကြောင်းကြားထားတာက အန်တိုနီယို ရဲ့ သင်္ဘောခြောက်စီးဟာ ကုန်ပစ္စည်းအပြည့်နဲ့အတူ ပင်လယ် ထဲမှာ ပျက်သွားတယ်၊ အန်တိုနီယို ပိုင်ဆိုင်သမျှ ငွေကြေးဥစ္စာ တွေလည်း သင်္ဘောတွေနဲ့အတူ ဆုံးရှုံးသွားတယ်။ သတင်းက ဒီမှာတင် မပြီးသေးပါဘူး၊ အန်တိုနီယိုရဲ့ သူငယ်ချင်း လော်ရန်ဇို က သူ့သမီး ဂျက်စီကာကို ခိုးပြေးကတည်းက ရှိုင်းလော့ဟာ အန်တိုနီယိုကို အရင်ကထက်ပိုပြီး မုန်းတီးတယ်(အငြိုးထား တယ်)၊ သူ့သမီးနဲ့ သူ့ပိုက်ဆံတွေ ဆုံးရှုံးရတဲ့အတွက် ဒေါသ ထွက်လွန်းလို့ လမ်းတကာမှာလျှောက်ရင်း. . .

“ငါ့သမီး. . .၊ ငါ့ပိုက်ဆံ. . .၊ ငါရဲ့ ကျောက်မျက် ရတနာတွေ. . .၊ တရားသဖြင့် စီရင်ပေးပါ၊ စီရင်ပေးပါ၊ ငါ့ပိုက်ဆံတွေနဲ့ ငါ့သမီးကို ပြန်ရှာပေးကြပါ” လို့ အော်ဟစ် ပြောဆိုနေတယ်။

အဲဒီအချိန်မှာ အန်တိုနီယိုရဲ့ သင်္ဘောတွေ ဆုံးရှုံးပြီ ဆိုတာလည်း သူကြား. . . ရော၊ သူ. . . သိပ်ကို ဝမ်းသာ သွားတာပေါ့။ အခု. . . သူကလဲ့စား ချေနိုင်ပြီလေ. . .၊ အန်တိုနီယိုကိုရော၊ ဒီရဲရင့်တဲ့ ကုန်သည်လေးကို ချစ်တဲ့ ခင်တဲ့သူတွေအားလုံးကိုပါ ကလဲ့စားချေနိုင်ပြီ. . . ပေါ့။



Shylock went to the Duke of Venice and told him of Antonio’s bargain and of the letter he had signed. The Duke and many of the merchants tried to persuade Shylock to give up his cruel revenge, but he would not listen to them.

‘Antonio cannot pay the money,’ said Shylock. ‘He must therefore keep his promise and pay me the pound of flesh.’

Jessica had heard her father tell his Jewish friends that he would rather have a pound of Antonio’s flesh than be paid twenty times the sum that was owed to him.

ရှိုင်းလော့က ဗင်းနစ်မြို့ဝန်ထံသွားတယ်၊ အန်တိုနီယိုနဲ့ သူ. . နှစ်ဦးသဘောတူ ပြုလုပ်ထားတဲ့ အကြောင်းအရာရယ်၊ အန်တိုနီယို လက်မှတ်ရေးထိုးထားတဲ့ စာချုပ်ရယ်ကို ပြောပြတယ်။ မြို့ဝန်မင်းနဲ့ (အခြား)ကုန်သည်တွေက ရှိုင်းလော့ကို ကြိုးစားဖျောင်းဖျကြတယ်၊ သူ့ရဲ့ ရက်ရက်စက်စက် ကလဲ့စားချေမယ့်အရာကို စွန့်လွှတ်ဖို့လေ. . .၊ ဒါပေမယ့် သူတို့ပြောစကားကို သူက ဘယ်နားထောင်လိမ့်မလဲ. . .။

"အန်တိုနီယိုက ကျုပ်ပိုက်ဆံကို ပြန်မှမဆပ်နိုင်တာပဲ။ ဒါကြောင့် သူ့ကတိ သူတည်အောင်လုပ်ရမယ်လေ၊ ကျုပ်ကို အသားတစ်ပေါင်ပေးရမှာပေါ့" လို့ ရှိုင်းလော့က ဆိုတယ်။

ဂျက်စီကာ ကလည်း သူ့အဖေရဲ့ ပြောစကားတွေကို ကြားခဲ့ပြီးပြီ၊ သူ့အဖေရဲ့ ဂျူးလူမျိုး သူငယ်ချင်းတွေကိုပြောတဲ့စကားပေါ့။ "သူ. . ရစရာရှိတဲ့ အကြွေးကို အဆနှစ်ဆယ်ပေးပြီး ပြန်ဆပ်တာထက်. . . အန်တိုနီယိုရဲ့ အသားတစ်ပေါင်ကို ပိုပြီးလိုချင်တယ်. . . "ဆိုတဲ့ စကားလေ. . .။



Bassanio was terribly disturbed by the news, and decided that he must return at once to Venice to try to save his friend. Portia had a kind and generous heart, and did not try to prevent his going.

'Let us be married now,' she said. 'And then you must go to Venice at once. You shall have gold to pay this debt twenty times over: and when it is paid, bring your true friend here.'

So they were married, and after the ceremony Bassanio and Gratiano set off at once for Venice. They found that the trial was just beginning.



ဘတ်ဆန်နီယိုက ဒီသတင်းစကားတွေကြောင့် သိပ်ကို စိတ်ချောက်ချားရပါတယ်. . .၊ ဒါကြောင့် သူက ဆုံးဖြတ်လိုက်တယ်၊ သူ့သူငယ်ချင်းရဲ့အသက်ကို ကယ်ဖို့ ဗင်းနစ်မြို့ကို ချက်ချင်းပြန်ရမယ်. . . ပေ့ါ။

ပေါ်ရှားက ကြင်နာတတ်၊ စာနာထောက်ထားတတ်ပြီး သဘောထားကြီးတဲ့ စိတ်နှလုံးရှိတယ်၊ ဒါကြောင့် သူ (ဘတ်ဆန်နီယို) သွားမှာကို မတားဘူး။

"ကျွန်မတို့. . . အခုပဲ လက်ထပ်ကြတာပေ့ါ၊ ပြီးတော့. . (ရှင့်သူငယ်ချင်းရဲ့ အသက်ကိုကယ်ဖို့)အခုချက်ချင်းပဲ ဗင်းနစ်မြို့သို့ ရှင်သွားရမယ်လေ. . .၊ အဲဒီအကြွေးရဲ့ အဆနှစ်ဆယ်ကျော်တန်တဲ့ ရွှေတွေကို ရှင်ယူသွားရလိမ့်မယ်၊ ကြွေးဆပ်ပြီးတဲ့အခါကျရင်တော့. . ရှင့်ရဲ့(စစ်မှန်တဲ့မိတ်ဆွေ) မိတ်ဆွေစစ်ကို ဒီမြို့(ကို)သာ ခေါ်လာခဲ့ပေတော့"

ဒါကြောင့်. . သူတို့တွေ လက်ထပ်ကြတယ်၊ လက်ထပ်မင်္ဂလာ အခမ်းအနားပြီးတဲ့အခါမှာတော့ ဘတ်ဆန်နီယိုနဲ့ ဂရက်တီယန်နိုတို့ဟာ ဗင်းနစ်မြို့ကို ချက်ချင်းပဲ ထွက်ခွာသွားကြပါတယ်။ သူတို့ရောက်သွားတော့. . . အမှုကို စတင်စစ်ဆေးနေရုံပဲ ရှိသေးတယ်ဆိုတာ. . . တွေ့ကြရပါတယ်။



Antonio did not ask for mercy. He knew that Shylock hated him too much to be merciful. Besides, a man must keep his promise; otherwise people would think that the mechants of Venice were not honest men.

The Duke of Venice, who was judging the case, begged Shylock to be merciful.

'Why should I be merciful?' said the Jew. 'I do not love Antonio.'

'Do all men kill the things they do not love?' asked Bassanio angrily.

'Don't all men want to kill the thing they hate?' answered Shylock bitterly.

'I will give you twice as much as Antonio owes you, if you will let him go free,' Bassanio said.

အန်တိုနီယိုက အသနားမခံပါဘူး၊ သူက သိနေတယ်လေ. . . ရှိုင်းလော့က သူ့အပေါ်မှာ မသနားနိုင်လောက်အောင် မုန်းတီးလွန်းနေတယ် ဆိုတာကို. . ၊ အဲဒီအကြောင်းအပြင် . . . ရှိသေးတဲ့အချက်က "လူတစ်ယောက်ဟာ ကိုယ့်ကတိကို ကိုယ်ထိန်းရမယ်လေ"။ ဒီလိုမှမလုပ်ခဲ့ရင် ဗင်းနစ်မြို့က ကုန်သည်တွေဟာ ရိုးသားတဲ့လူတွေမဟုတ်ဘူးလို့ လူတွေက မှတ်ယူကြတော့မှာပေါ့။

အမှုကို စစ်ဆေးစီရင်နေတဲ့ ဗင်းနစ်မြို့ဝန်က ရှိုင်းလော့ကို တောင်းပန်တယ်၊ သနားဖို့ ထောက်ထားညှာတာဖို့. . .

ဂျူးကြီးရှိုင်းလော့က ပြောတယ်။ "ဘာကြောင့် ကျုပ်က သနားညှာတာသင့်တာလဲ. . . ?"ကျုပ်က အန်တိုနီယိုအပေါ် မေတ္တာမှမရှိဘဲ"

ဘက်ဆန်နီယိုက ဒေါသတကြီး မေးလိုက်တယ် "လူတွေအားလုံးဟာ. . . သူတို့မချစ်တဲ့လူတွေကို သတ်ကြရောတဲ့လားဗျာ. . . "

"ဟော့. . . လူအားလုံးဟာ သူတို့မုန်းတဲ့သူတွေကို မသတ်ချင်ကြဘူးလား. . ?"လို့ ရှိုင်းလော့က နာနာကျည်းကျည်း ပြန်ဖြေတယ်။

"အန်တိုနီယိုကိုသာ ခင်ဗျားက လွတ်လပ်ခွင့်၊ ပြေငြိမ်းခွင့်ပေးမယ်ဆိုရင် အန်တိုနီယိုက ခင်ဗျားကိုပေးဖို့ ရှိတဲ့ ငွေပမာဏထက် နှစ်ဆပိုတဲ့ငွေကို ကျွန်တော် ပေးပါ့မယ်ဗျာ . . . " လို့ ဘတ်ဆန်နီယိုက ပြောတော့ . . . ရှိုင်းလော့က . . .



‘If you offered me six thousand times more than the amount he owes me, I should still ask for my pound of flesh,’ the Jew replied.

‘How can you hope for mercy if you show none? asked the Duke, but Shylock answered violently:

‘I do not want mercy. I want justice. Give me my pound of flesh.’ He began to sharpen the long knife he bad brought with him, feeling that his revenge was very near.

"သူက ငါ့ကို ပေးဖို့ရှိတဲ့ငွေရဲ့ အဆခြောက်ထောင် ပိုပေးရင်တောင်မှ . . . ငါက (ငါရသင့်တဲ့) အသားတစ်ပေါင် ကိုပဲ တောင်းမှာ. . . ကွ. . ."

"ခင်ဗျားက အကြင်နာမေတ္တာကို မပြရင် (ခင်ဗျားအလှည့်ကျရင်လည်း) ခင်ဗျားဘယ်လို အကြင်နာ မေတ္တာကို ရမှာလဲ. . . ?လို့ မြို့ဝန်က မေးပါတယ်၊ ဒါပေ မယ့် ရှိုင်းလော့က (ခါးခါးသီးသီး) ပြင်းပြင်းထန်ထန် ပြန်ဖြေ တယ်။

"ကျုပ်က ကရုဏာတွေ၊ အကြင်နာတွေ လိုချင်တာ မဟုတ်ဘူးဗျ. . .၊ ကျုပ်လိုချင်တာ တရားစီရင်ရေးကိစ္စ၊ တရားဥပဒေ. . ဗျ၊ ကျုပ်ရသင့်တဲ့ရထိုက်တဲ့ အသားတစ်ပေါင် ကိုသာ) ပေးစမ်းပါဗျာ. . ."

(အဲဒီလိုပြောပြီးတော့. . . )သူနဲ့အတူ ယူလာတဲ့ သားလှီးဓါးအရှည်လေးကို သွေးတော့တာပါပဲ။ သူကလဲ့စား ချေဖို့က သိပ်ကို သေချာပြီး အကွက်ဆိုက်နေပြီ. . . လို့ ထင်မှတ်ခံစားရလို့လေ။

But at that moment a messenger came to the Duke with the news that a clever young lawyer had arrived from another town to judge the case. Almost at once the lawyer entered, accompanied by his clerk. They both looked very young, but they brought with them a written introduction from a lawyer friend of the Duke's, who assured him that the young man was well qualified to judge the case.

His wisdom was soon shown by the careful questions he asked the Jew. When he had heard all that Shylock and Antonio had to say, he begged the Jew to be merciful.

ဒါပေမယ့် . . . အဲဒီအချိန်မှာပဲ၊ (သတင်းပို့ ဆက်သား)စေတမန်တစ်ယောက် မြို့ဝန်ထံ ရောက်လာတယ်၊ တတ်ကျွမ်းလိမ္မာတဲ့ ရှေ့နေလေးတစ်ယောက်ဟာ အခြားမြို့ကနေ အမှုကိုစီရင်(လျှောက်လဲ)ဖို့ ရောက်လာပြီ . . ဆိုတဲ့ သတင်းစကားနဲ့လေ။ချက်ချင်းဆိုသလိုပဲ ရှေ့နေလေးဟာ (တရားခွင်ကို) ဝင်ရောက်လာပါတယ်။ သူတို့နှစ်ဦးလုံးဟာ သိပ်ကို ငယ်ရွယ်နုနယ်ပုံ ရပါတယ်။ ဒါပေမယ့် . . . မြို့ဝန်မင်းရဲ့ မိတ်ဆွေ . . ရှေ့နေတော်တစ်ယောက်ဆီက "မိတ်ဆက်စာ" တစ်စောင်ကို ယူလာပါတယ်၊ သူ(မြို့ဝန်ရဲ့မိတ်ဆွေ) က အာမခံတယ် . . ၊ ဒီ (ရှေ့နေ) လူငယ်လေးဟာ . . . ဒီအမှုကို စီရင်ဖို့အတွက် အရည်အချင်းကောင်းကောင်း ရှိကြောင်း . . ပေါ့။

သူရဲ့ ဉာဏ်ပညာအမြော်အမြင်က မကြာခင်မှာပဲ ပေါ်လွင်ပါတယ်၊ ဂျူးကြီးကို စေ့စပ်သေချာတဲ့ မေးခွန်းတွေမေးပြီး စစ်ဆေးခြင်းအားဖြင့်ပေါ့ . . . ၊ ရှိုင်းလော့နဲ့ အန်တိုနီယို လျှောက်လဲပြောဆိုတဲ့ စကားတွေကို ကြားနာပြီးတဲ့အခါမှာ . . . သူက ဂျူး (ရှိုင်းလော့)ကို ညှာတာထောက်ထားဖို့ တောင်းပန်တယ်။



that! shouted Shylock angrily; and the young lawyer made a fine speech, telling Shylock of the value of mercy.

'Mercy is twice-blessed,' he said. 'It blesses him who gives and him who receives. Great kings are always merciful; and God himself is known to be full of gentle - ness and mercy. Therefore, Jew, although you ask for justice, I ask you to be merciful.'

Shylock would not listen. He could think of nothing but revenge, and he refused to take the money Bassanio offered, although Bassanio said he would give him ten times the sum he owed.

"ကျုပ်က ဘာအကြောင်းကြောင့် ညှာတာ ထောက်ထားရမှာလဲ. . . ?၊ ပြောစမ်းပါ. . . ကျုပ်ကို. . . ဒီကိစ္စ" ရှိုင်းလော့က ဒေါသတကြီး အော်ဟစ်ပြောဆိုတယ်။

ရှေ့နေလေးက ကောင်းမြတ်တဲ့ စကားတွေနဲ့ ပြောဆို(ဖျောင်းဖျ)တယ်၊ ကရုဏာအကြင်နာတရားရဲ့ တန်ဖိုးကို ပြောပြတယ်။

"ကရုဏာတရားကို (နှစ်ဦးနှစ်ဖက်)နှစ်ပြန်နှစ်ဆ ကောင်းကျိုးရပါတယ်ဗျာ၊ ကရုဏာတရားကို ပေးအပ်သူရော. . . လက်ခံရရှိသူပါ ကောင်းကျိုးရပါတယ်ဗျာ. . . ၊ ကြီးကျယ်မြင့်မြတ်တဲ့ ဘုရင်ဧကရာဇ်တွေဟာ ကရုဏာတရား ထာဝရရှိကြသူတွေဖြစ်ပါတယ်။(အဖ)ဘုရားသခင်ကိုယ်တိုင်သော်မှ နူးညံ့သိမ်မွေ့မှုတွေ၊ အကြင်နာမေတ္တာကရုဏာတွေနဲ့ ထုံမွှမ်းပါတယ်. . . ၊ ဒါကြောင့် ဂျူးကြီး (ရှိုင်းလော့). . . ၊ သင်က "တရားစီရင်မှု၊ တရားဥပဒေ"ကို တောင်းဆိုပေမယ့်. . . ၊ ကျွန်ုပ်ကတော့ "ကြင်နာသနားပါ၊ ထောက်ထားညှာတာပါ"လို့ တောင်းပန်ချင်ပါတယ်။

ရှိုင်းလော့က နားမဝင်၊ နားမထောင်ပါဘူး. . . ၊ သူ့အနေနဲ့ကတော့ ကလဲ့စားချေဖို့ကလွဲလို့. . ဘာမှ မစဉ်းစားနိုင်ပါဘူး. . . ၊ ဒါကြောင့် ဘတ်ဆန်နီယို ပြန်ဆပ်တဲ့ ပိုက်ဆံကိုယူဖို့ငြင်းဆန်တယ်၊ ပေးစရာရှိတဲ့ အကြွေးရဲ့ဆယ်ဆကို ပေးပါမယ်လို့ ဆိုပေမယ့်. . သူက မယူဘူးလို့ ငြင်းဆန်တယ်။



'Come, Shylock,' said the lawyer patiently. 'Be merciful'. Take three times the sum and let me tear up the promise.'

Shylock still refused, and the lawyer had to admit that his claim was right according to the law of Venice; and, if the Jew would not be merciful, Antonio must give him his pound of flesh.

'A wise man come to judgment! Oh, wise young judge, how I admire you!' cried Shylock, bringing out his knife again.

'You must prepare yourself for the knife,' the lawyer said to Antonio.

'Oh, noble judge! Oh, wonderful young man! cried Shylock.

ရှေ့နေလေးက စိတ်ရှည်ရှည်ထား၊ သည်းခံပြီးပြော တယ်. . .၊"ရှင်းလော့ရယ်၊ ညှာတာပါ၊ သနားပါ. . .၊ သင် ရစရာရှိတဲ့ငွေရဲ့ သုံးဆကိုယူပါ၊ ဒီ. . . စာချုပ်ကလေးကို (သင်ပုန်းချေပြီး)ဆုတ်ဖြဲပစ်လိုက်ပါရစေ. . . "

ဒီလိုပြောတဲ့. . . တိုင်အောင်၊ ရှင်းလော့ကတော့ ငြင်းဆန်ဆဲပါပဲ။ ဒါကြောင့်. . . ရှေ့နေလေးက ဝန်ခံလိုက်ရ တယ်၊ ဗင်းနစ်မြို့ရဲ့ တရားဥပဒေအရဆိုရင် ရှင်းလော့ရဲ့ တောင်းဆိုမှုဟာ တရားဝင်တယ်၊ ဥပဒေနဲ့ညီညွတ်တယ်၊ ဒါကြောင့် ရှင်းလော့ကသာ မကြင်နာမထောက်ထားရင်၊ အန်တိုနီယိုဟာ သူရဲ့အသားတစ်ပေါင်ကို ပေးအပ်ရပါမယ်။

"တရားခွင်ကို ပညာရှိတစ်ယောက် ကြွမြန်းရောက်ရှိ လာတာပဲဟော့. .၊အိုး. . ပညာရှိ တရားသူကြီးမင်းရယ်. . ချီးကျူးပါတယ်. . . "လို့ အော်ဟစ်ပြီး ရှင်းလော့က သူရဲ့ "သားလှီးဓါး"ကို တစ်ခါထပ်ပြီး ထုတ်လိုက်ပြန်ပါတယ်။

ရှေ့နေလေးက အန်တိုနီယိုကို ပြောလိုက်တယ်။ "ကဲ. . . (သင့်ရဲ့အသားကို)ဓါးနဲ့ အလှီးခံဖို့ အသင့်ပြင်ရ မယ်. . . "

"အိုး. . . ကောင်းမြတ်လိုက်တဲ့. . . တရားသူကြီး၊ ချီးကျူးထိုက်တဲ့ တရားသူကြီး. . . "လို့ ရှင်းလော့က အော်ပါတယ်။



‘Come, open up your coat,’ said the lawyer.

Yes, yes-his coat, nearest the heart, noble judge!’ said Shylock, feeling the sharp edge of his knife.

‘Are there balances here to weigh the flesh?’ asked the young man.

‘I have them ready,’ answered Shylock.

Have you called a doctor, to stop his wounds in case he bleeds to death?’

‘No,’ said Shylock. ‘That is not written in the bond.’

The young judge asked Antonio if the had anything to say Antonio told Bassanio that he loved him greatly and was glad to die for his sake, and then he said goodbye.

"ကဲ. . . လာပါ၊ သင့်ရဲ့ (ကုတ်)အင်္ကျီကို ဖွင့်(ဟ) ပေးလိုက်ပါ"လို့ ရှေ့နေလေးက (အန်တိုနီယိုကို)ပြောတယ်။

ထက်နေမြဲနေတဲ့ ဓါးသွားလေးကိုစမ်းရင်း ရှိုင်းလော့က ပြောလိုက်တယ်။

"ဟုတ်ပ. . . ဟုတ်ပ၊ (ကုတ်)အင်္ကျီကိုဖွင့်၊ သူရဲ့ နှလုံးသားနဲ့ အနီးဆုံးနေရာကိုဖွင့်. . .၊ အိုး ကောင်းမြတ်တဲ့ တရားသူကြီးလေးပါပဲ. . . "

ရှေ့နေလေးက မေးလိုက်တယ်၊ "အသားကို ချိန် တွယ်ဖို့. . . ချိန်ခွင်လေးများ ပါရဲ့လား. . . "

"သွေးထွက်လွန်ပြီး မသေအောင်၊ သူ့ဒဏ်ရာကို ကုစားဖို့. . .၊ ဆရာဝန်တစ်ယောက်ယောက်ကို ခေါ်ခဲ့ရဲ့ လား. . . "

"ဟင့်အင်း. . . အဲဒါက စာချုပ်ထဲမှာ ရေးမထား ဘူးလေ. . . "လို့ ရှိုင်းလော့က ပြောတယ်။

ငယ်ရွယ်တဲ့ တရားသူကြီးလေးက အန်တိုနီယိုကို မေးတယ်၊ သူ့မှာ ဘာများပြောစရာရှိသလဲပေါ့။

အန်တိုနီယိုက ဘတ်ဆန်နီယိုကို ပြောတယ်၊ သူက ဘက်ဆန်နီယိုကို သိပ်ပြီးချစ်ခင်တယ်၊ သူ့အတွက် အသက် ကို ပေးအပ်ဖို့ အသင့်ရှိတယ်၊ စေတနာရှိတယ်လို့ ပြောဆို ပြီး. . .၊နောက်ဆုံးအနေနဲ့ နှုတ်ဆက်စကားကို ဆိုတယ်။



'A pound of this merchant's flesh is your,' said the lawyer to Shylock. 'The court agrees, and the law admits it.'

'Most rightful judge!' said the delighted Jew.

'And you must cut this flesh from near his heart; the law admits it, and the court agrees.'

'Most learned judge! said Shylock. 'Come, Antonio, prepare yourself.'

'Wait a little,' said the judge. 'There is something else. This letter does not promise you one drop of blood. Take your pound of flesh; but if you spill one drop of blood you must give all your money and possessions to the State.'

Now it was Gratiano's turn to praise the lawyer.

'Oh, learned judge!' he cried. ' Listen Shylock to the learned judge!'

"ဒီကုန်သည်ကြီးရဲ့ အသားတစ်ပေါင်ကို သင်ပိုင်ပေတယ် (အသားတစ်ပေါင်သည် သင့်ဟာဖြစ်တယ်) ရုံးတော်ကလည်း သဘောတူတယ်၊ တရားဥပဒေကလည်း ခွင့်ပြုတယ်. . . "လို့ ရှေ့နေလေးက ရှိုင်းလော့ကို ပြောတယ်. . .၊ ရှိုင်းလော့က

"ပညာအရှိဆုံး တရားသူကြီးပေပဲ. . . "လို့ ဝမ်းမြောက်ဝမ်းသာနဲ့ ပြောလိုက်တယ်။

ရှေ့နေလေးက "အဲဒီအသားကို သူရဲ့နှလုံးသားနဲ့ နီးတဲ့နေရာကနေ လှီးယူရမယ်၊ တရားဥပဒေကလည်း ခွင့်ပြုတယ်၊ ရုံးတော်ကလည်း သဘောတူတယ်"လို့ ပြောလိုက်တော့

"ပညာအရှိဆုံး တရားသူကြီးပေပဲ။ ကဲ. . . လာခဲ့ အန်တိုနီယိုမင်းရဲ့အသားကို အလှီးခံဖို့အတွက် အသင့်ပြင်ပေတော့"

"ခဏနေပါဦး. . .၊ ပြောစရာလေးတွေ ရှိသေးလို့ ပါ။ ဒီစာချုပ်မှာ သင့်ကို"သွေးတစ်စက်"တောင်ပေးပါမယ်လို့ မပါဘူး၊ သင်ရသင့်တဲ့ အသားတစ်ပေါင်ကို ယူစေ. . .၊ သို့သော် သွေးတစ်စက်ထွက်ရင်(လျှင်)၊ သင်ပိုင်ဆိုင်သမျှ ငွေကြေးပစ္စည်း ဉစ္စာအားလုံးကို နိုင်ငံတော်(ဘဏ္ဍာအဖြစ် နိုင်ငံတော်)သို့ ပေးအပ်စေ"

ဒီတစ်ခါတော့. . ရှေ့နေလေးကို ချီးကျူးဖို့ (ဖြစ်လာတာက)ဂရက်တီယန်နိုရဲ့ အလှည့်ပေါ့။ သူက ကြွေးကြော်အော်ဟစ်လိုက်တယ်။

အိုး. . . ပညာရှိလိုက်တဲ့. . တရားသူကြီးပါလား၊ ရှိုင်းလော့. . . ပညာရှိတရားသူကြီးမင်း အမိန့်ရှိတာကို နားထောင်. . . စမ်း"



‘You asked for justice, and you shall have it,’ said the lawyer.

‘Then,’ cried Shylock hastily, ‘give me the money, Bassanio. Give me three times what Antonio owes me, as you said you would.’

‘Not so fast!’ said the judge. ‘You have already refused the money. You shall have justice, but nothing else.’

Finally, shaking with anger, the old Jew asked for the money he had lent Bassanio, and no more. But the judge refused him.

‘And we have not finished yet,’ he continued.



ဒီတော့ ရှေ့နေလေးက "သင်ဟာ တရားစီရင်မှု တရား ဥပဒေကိုပဲ တောင်းဆိုခဲ့တယ်၊ ဒါကြောင့် တရားဥပဒေကိုပဲ ရရှိလိမ့်မယ်"လို့ ရှေ့နေလေးက ပြောကြားပါတယ်။

ရှိုင်းလော့က ခပ်မြန်မြန် သုတ်သီးသုတ်ပြာနဲ့ ပြော လိုက်တယ်၊ "ဒီလိုဆိုရင်လည်း . . . ကျုပ်ကို ပိုက်ဆံပဲပေး ပါတော့ ဘတ်ဆန်နီယို ပေးစရာရှိတဲ့ကြွေးရဲ့ သုံးဆကို ပေးမယ်ဆို . . .၊အဲဒါကို . . . ငါ့ကို ပေးပါတော့ . . . "

"ဒီလောက်လည်း အလျင်စလို မလုပ်ပါနဲ့လေ၊ သင်ပဲ ပိုက်ဆံကို မယူဘူးလို့ (ခုနက)ငြင်းဆိုခဲ့ပြီးပြီလေ . . .၊ တရားဥပဒေကလွဲလို့ ဘာကိုမှ သင်ရလိမ့်မယ် မဟုတ်ပေ ဘူး . . . "လို့ တရားသူကြီးက ပြောလိုက်တယ်။

နောက်ဆုံးကျတော့ . . . ဒေါသကြောင့် တုန်တုန် ရီရီဖြစ်နေတဲ့ ဂျူးအဘိုးကြီးက ဘတ်ဆန်နီယို သို့ချေးလိုက် တဲ့ ငွေ(အရေအတွက်)အတိုင်းပဲ ပေးပါတော့ . .၊ ဒီထက်ပို ပြီး ဘာမှလည်း မပေးပါနဲ့တော့"လို့ တောင်းဆိုတယ်။

ဒါပေမယ့် တရားသူကြီးက ငြင်းပယ်လိုက်တယ်၊ ပြီးတော့ ဆက်ပြောတယ်။



'You, Shylock, are a Jew. According to the laws of Venice, if anyone who is not himself a citizen of Venice tries to take the life of a true citizen, he must be put to death; and his money and property must be shared equally between the State and the man he has tried to kill. You are not a citizen of Venice, and you have tried to kill Antonio. The Duke must decide on your punishment.'

'I shall show you more mercy than you showed Antonio,' said the Duke to the frightened Jew. 'I give you your life, but your money must be given to Antonio and the State.'

ာင် ရှိုင်းလော့
ဟာ ဂျူးလူမျိုးတစ်ယောက်ဖြစ်တယ်၊ (ပြဋ္ဌာန်းထားတဲ့) ဗင်းနစ်မြို့ တရားဥပဒေအတိုင်း(ပြောရမယ်)ဆိုရင် ဗင်းနစ်မြို့ သားစစ်စစ်မဟုတ်သောသူတစ်ယောက်သည် ဗင်းနစ်မြို့ သားစစ်စစ်တစ်ယောက်၏ အသက်အားသေကြောင်းကြံလျှင် ထိုသူသည် သေဒဏ်ကျခံစေရမည်၊ ထို့ပြင် ထိုသူ၏ ငွေကြေး ဥစ္စာပစ္စည်းများကိုလည်း အညီအမျှ နှစ်ပုံခွဲဝေစေရမည်၊ တစ်ပုံကို နိုင်ငံတော်သို့ပေးအပ်၍ (အခြား)တစ်ပုံကို သေကြောင်းကြံခြင်းခံရသူသို့ ပေးအပ်စေရမည်. . . "လို့ ပြီးတော့ သင်ဟာ အန်တိုနီယိုရဲ့ အသက်ကိုသတ်ဖို့ ကြိုးစား ခဲ့ပြီးပြီ. . .၊သင့်အပေါ် ပေးရမယ့် ပြစ်ဒဏ်ကို မြို့ဝန်မင်းက ဆုံးဖြတ်ပေလိမ့်မည်. . . "

ထိတ်လန့်ကြောက်ရွံ့နေတဲ့ ဂျူးကြီးကို မြို့ဝန်မင်း က အမိန့်ချတယ်။

"သင်ဟာ အန်တိုနီယိုအပေါ် ပြခဲ့တဲ့ကရုဏာနဲ့ ထောက်ထားညှာတာမှုထက်ပိုမိုတဲ့ ကရုဏာကို ကျုပ်က ပြသပါမယ်. . .၊"သင့်ရဲ့အသက်ကို ချမ်းသာပေးလိုက် တယ်၊ ဒါပေမယ့်. . . သင့်ရဲ့ ငွေကြေးပိုက်ဆံတွေကိုတော့ နိုင်ငံတော်နဲ့ အန်တိုနီယိုသို့ ပေးအပ်စေ. . . "



Shylock was a defeated man. What could he, a money-lender, do if all his money was taken from him?

'Take my life as well! he cried bitterly. 'You take my life, anyway, if you take the means by which I live.'

The young judge turned to Antonio and said:

'What mercy can you offer him, Antonio?'

And kind-hearted Antonio, Pitying the broken old man, said gently: 'Let him keep my share of the property, but on one condition. When he dies, he must leave all his possessions to his daughter Jessica and her husband.'

ရှိုင်းလော့ဟာ ရှုံးနိမ့်တဲ့ (ဘဝပျက်တဲ့) လူတစ်ယောက်ဖြစ်ခဲ့ရပါပြီ၊ သူလို ငွေတိုးချေးစားသူတစ်ယောက်ရဲ့ ငွေတွေကို အသိမ်းခံလိုက်ရပြီဆိုရင်. . . သူဘာများ လုပ်နိုင်ဦးမှာမို့လဲ. . . လေ. . ။

“ကျုပ်ကိုလည်း သတ်လိုက်ကြပါတော့လားဗျာ. . ” လို့ သူကနာကြည်းခါးသီးစွာနဲ့ ငိုယိုပြောကြားပါတယ်။ “ကျုပ်အသက်မွေးမှုပြုနေတဲ့ ဥစ္စာခနေ ပစ္စည်းငွေကြေးတွေကို ယူ. . . သွားမှတော့. . . ကျုပ်ရဲ့အသက်ကိုလည်း ယူသွားကြပါတော့ဗျာ”

တရားသူကြီးလေးက အန်တိုနီယိုဘက်ကို လှည့်ပြီး မေးလိုက်တယ်. . . “သူ့အပေါ် ဘယ်လို ထောက်ထားညှာတာမှုများ ပေးနိုင်မလဲ. . . အန်တိုနီယို”

ကြင်နာသနားတတ်တဲ့ အန်တိုနီယိုက အခက်ကြုံ ရှုံးနိမ့်နေတဲ့ အဘိုးကြီးကို ကရုဏာသက်မိတယ်၊ ဒါကြောင့်. . နူးညံ့ညင်သာစွာနဲ့ ပြောလိုက်ပါတယ်။“ကျွန်တော် ရသင့်တယ်ဆိုတဲ့ ဝေစုပစ္စည်းတွေကို သူပဲရယူပါစေ. . .၊ ဒါပေမယ့် စည်းကမ်းကန့်သတ်ချက်တစ်ခုတော့ ထားရပါမယ်. . .၊ သူသေဆုံးတဲ့အခါ. . . သူရဲ့ပိုင်ဆိုင်မှု ပစ္စည်းဥစ္စာတွေကို သူ့သမီး ဂျက်စီကာနဲ့ သူ(မ)ရဲ့ ခင်ပွန်းတို့အတွက် ထားခဲ့ပါမယ်. . . ဆိုတဲ့ စည်းကမ်းသတ်မှတ်ချက်ပါပဲ”



'Are you contented, Shylock? What do you say?' asked the lawyer.

'I am content,' said Shylock. And now, I pray you, give me leave to go. I am not well. Send me the papers and I will sign them.' And the old Jew left the court.

Antonio and Bassanio were full of gratitude to the clever young judge, and asked him to accept the money that Shylock had lent Bassanio. But the judge would not take it, saying he was well paid by their content.

'Then, dear sir,' said Bassanio, ' take some small gift to remind you of our gratitude.'

'If you insist,' said the youngman,'I will take the ring you wear on your finger.'

"သင်သဘောတူ ကျေနပ်ရဲ့လား. . . ရှိုင်းလော့. . ဘာပြောစရာ ရှိသေးလဲ. . ."လို့ ရွှေ့နေလေးက မေး တော့. . .

"ကျုပ်. . . ကျေနပ်ပါတယ်ဗျာ. . .၊အခု တောင်း ပန်ပါတယ်၊ ကျုပ်ကို သွားခွင့်ပြုပါတော့၊ ကျုပ်နေမကောင်း လို့ပါ။ စာရွက်စာတမ်း (စာချုပ်) တွေကိုသာ ကျုပ်ဆီပို့ပေး ပါဗျာ. . .၊ ကျုပ် လက်မှတ်ထိုးပါမယ်. . ." လို့ ပြောပြီး ဂျူး အဘိုးကြီးဟာ ရုံးတော်ကနေ ထွက်ခွာသွားပါတယ်။

အန်တိုနီယိုနဲ့ ဘတ်ဆန်နီယိုက လိမ္မာပါးနပ်တဲ့ ပညာရှိရွှေ့နေလေးကို အလွန်အမင်း ကျေးဇူးတင်ကြပါ တယ်။ ရှိုင်းလော့က ဘတ်ဆန်နီယိုကို ချေးထားတဲ့ ငွေ (ပမာဏ)ကို ရွှေ့နေလေးက ယူဖို့. . .၊ လက်ခံဖို့. . .၊ တောင်းဆိုကြတယ်။ ဒါပေမယ့်. . . တရားသူကြီးလေး က. . မယူပါဘူး၊ သူတို့အခုလို ကျေနပ်ဝမ်းမြောက်တယ်ဆိုရင် သူ့ကို ပေးဆပ်ပြီးတာ(နဲ့ အတူတူပါပဲ)လို့ ပြောပါတယ်။

"ဒီလိုဆိုရင်လည်း ခင်ဗျာ. . ကျွန်တော်တို့ရဲ့ ကျေး ဇူးတင်ကြောင်း အထိမ်းအမှတ်အဖြစ် လက်ဆောင်ပစ္စည်း လေး. . . တော့ယူပါ (လက်ခံပါ)ခင်ဗျား. . ."လို့ ဘတ်ဆန် နီယိုက ပြောတော့

"သင်က အတင်းအကျပ်ပြောနေမှတော့. . သင့်ရဲ့ လက်မှာ ဝတ်ဆင်ထားတဲ့ လက်စွပ်ကို ကျွန်ုပ်ယူပါမယ်. . ." လို့ ရွှေ့နေလေးက ပြန်ပြောတယ်။



Bassanio hastily drew back his hand, because the ring was one that Portia had given him, and he had promised her that he would keep it always. He told the judge the ring was of small value, and promised he would buy him a more expensive one instead.

But the young man seemed annoyed.

'You taught me how to beg,' he said. 'And now, I think you teach me how a beggar should be answered.' He said good-bye coldly to Bassanio and went away.



ဘတ်ဆန်နီယိုက ကသုတ်ကရက်နဲ့ သူ့လက်ကို ခပ်မြန်မြန်ပဲ. . . ပြန်ရုတ်လိုက်တယ်၊ ဘာကြောင့်ဆို. . . လက်စွပ်က ပေါ်ရှားပေးထားတဲ့ လက်စွပ်လေ. . .၊ ပြီးတော့. . . သက်ဆုံးတိုင်. . . ထာဝရ သိမ်းဆည်းထားပါမယ်လို့ ကတိပေးထားတဲ့လက်စွပ်. . .၊ သူက တရားသူကြီးလေးကို ပြောပြတယ်၊ "ဒီလက်စွပ်က တန်ဖိုးနည်းပါတယ်၊ ဒီထက်တန်ဖိုးရှိ ဈေးကြီးတဲ့ လက်စွပ်တစ်ကွင်းကို ဒီလက်စွပ်အစား ဝယ်ပေးပါ့မယ်. . . "

ဒါပေမယ့် ရှေ့နေလေး ကြည့်ရတာ စိတ်အနှောင့်အယှက်ဖြစ်သွားပုံရတယ်။ သူက ပြောတယ်. . .

"သင်ပဲ. . . ကျွန်ုပ်ကို တောင်းတတ်ရမ်းတတ်အောင် သင်ပေးခဲ့တယ်. . .၊ အခုလည်း. . . သူတောင်းစားကို ဘယ်လို(ကန်တော့ဆွမ်းလုပ်ရမယ်) အဖြေပေးရမယ်ဆိုတာ သင်ပေးပြန်ပြီထင်တယ်" လို့ ဘတ်ဆန်နီယိုကို အေးတိအေးစက် စိမ်းစိမ်းကားကားပြောပြီး နှုတ်ဆက်ထွက်ခွာသွားပါတယ်။



When he had gone, however, Antonio persuaded Bassanio to let the lawyer have the ring, and Bassanio-regretting his earlier refusal-sent Gratiano to find the young judge and give it to him. Poor Gratiano found himself in trouble, too: because, after giving Bassanio's ring to the lawyer, he was persuaded by the lawyer's clerk to give him his own ring- a gift to him from Nerissa at their marriage.

Bassanio and Gratiano returned to Belmont, taking Antonio with them. They were full of happiness at the thought of seeing Portia and Nerissa again, but they were a little worried. What would their wives say to them when they noticed that the rings had gone?

သူထွက်သွားပြီးတဲ့အခါ အန်တိုနီယိုက ဘတ်ဆန်နီယိုကို ဖျောင်းဖျတယ်။ ရွှေနေလေးလိုချင်တဲ့ လက်စွပ်ကို ပေးလိုက်ဖို့. . .၊ ဘတ်ဆန်နီယိုလည်း စောစောက ငြင်းပယ်ခဲ့မိတာကို နောင်တရ၊ စိတ်မကောင်းဖြစ်ပြီးတော့ ဂရက်တီယန်နိုကို လွှတ်ပြီး တရားသူကြီးလေးကို ရှာခိုင်းတယ်၊ ရှာလို့တွေ့ရင် လက်စွပ်ကိုပေးဖို့. . .၊

သနားစရာကောင်းတဲ့ ဂရက်တီယန်နို ကိုယ်တိုင်လည်း ဒုက္ခတွေ့တော့တာပါပဲ၊ ဘာကြောင့်ဆို. . . ဘတ်ဆန်နီယိုရဲ့ လက်စွပ်ကို ရွှေနေလေးသို့ ပေးအပ်ပြီးတဲ့အခါ. .၊ ရွှေနေလေးရဲ့ စာရေးကလည်း သူ့(ဂရက်တီယန်နို)ရဲ့ လက်စွပ်ကိုပေးဖို့ တောင်းတယ်၊ အဲဒီလက်စွပ်က မင်္ဂလာဆောင်မှာ နာရစ်ဆာက လက်ဆောင်ပေးထားတဲ့. . . လက်ထပ်လက်စွပ်။

ဘက်ဆန်နီယိုနဲ့ ဂရက်တီယန်နိုတို့ဟာ ဘဲလ်မောင့်မြို့သို့ ပြန်လာခဲ့ကြတယ်၊ အန်တိုနီယိုကိုပါ သူတို့နဲ့အတူ ခေါ်လာခဲ့တာပေါ့။ ပေါ်ရှားတို့ နာရစ်ဆာတို့နဲ့ တွေ့ရတော့မယ်ဆိုတဲ့ အတွေးကြောင့် သူတို့တွေဟာ ပျော်မြူးရွှင်ပျနေကြပါတယ်၊ ဒါပေမယ့်. . . သူတို့. . . နည်းနည်းတော့ စိုးရိမ်ပူပန်မိကြတယ်၊ သူတို့ရဲ့လက်မှာ လက်စွပ်တွေ မရှိတော့ဘူးဆိုတာကို သိသွားရင် သူတို့ဇနီးသည်တွေက ဘာများ ပြောကြမှာပါလိမ့်. . . (ဆိုတဲ့စိတ်နဲ့လေ)



When Portia looked at Bassanio's hand, she asked him at once what had happened to his ring. He explained, but she seemed very annoyed. He begged her to forgive him, and Antonio told her that Bassanio was not to blame. He had given the ring to the clever lawyer who had saved Antonio's life.

'I dare swear he will never again break a promise to you,' Antonio said.'

'Then give him this ring.' said Portia, 'and tell him to keep it better than the other.'





ပေါ်ရှားက ဘတ်ဆန်နီယိုရဲ့ လက်ကိုကြည့်ပြီး. . . လက်စွပ်(ဘယ်ရောက်သွားပြီလဲ) ဘာဖြစ်သွားတာလဲ. . . လို့ ချက်ချင်းပဲ. . မေးတယ်၊ ဘက်ဆန်နီယိုက ရှင်းပြပါတယ်။ ဒါပေမယ့်. . . သူ(မ)က သိပ်ကို စိတ်အနှောင့်အယှက်ဖြစ်နေတဲ့ပုံပါပဲ။ သူ့ကို ခွင့်လွှတ်ဖို့ တောင်းပန်ပါတယ်၊ အန်တိုနီယိုကလည်း သူ(မ)ကို ပြောပြပါတယ်။ ဘတ်ဆန်နီယိုကို အပြစ်မတင်ထိုက်ပါဘူး. . .၊ အန်တိုနီယိုရဲ့ အသက်ကို ကယ်ခဲ့တဲ့. . . ဉာဏ်ပညာထက်မြက်တဲ့ ရှေ့နေလေးကို ပေးအပ်လိုက်ရခြင်းသာ ဖြစ်ပါတယ်။

"ကျွန်တော် ကျိန်ဆိုပြီး ပြောရဲပါတယ်၊ သူဟာ ခင်ဗျားအပေါ်မှာ ဘယ်တော့မှ နောက်တစ်ကြိမ်. . . ကတိဖျက်မှာ မဟုတ်ပါဘူးဗျာ. . . "

"ဒီလိုဆိုရင်လည်း. . . သူ့ကို ဒီလက်စွပ်ပေးလိုက်ပါ၊ ဟိုလက်စွပ်ထက်ပိုပြီး ကောင်းကောင်းသိမ်းထားဖို့ ပြောပါ"



To Bassanio's astonishment, she gave him the very same ring that he had given to the judge. And Nerissa returned to Gratiano the ring which he had given to the lawyer's clerk.

'You are all amazed!' said Portia, laughing at their puzzled faces. 'But here is a letter. Read it, all of you. There you will find that Portia was the lawyer, and Nerissa was her clerk.'

'Were you the lawyer, and I did not know you?' Bassanio asked in amazement.



ဘတ်ဆန်နီယိုလည်း တအံ့တသြ ဖြစ်ရပါပြီ။ တရား သူကြီးလေးထံ သူပေးခဲ့တဲ့လက်စွပ်ကိုပဲ. . . သူ(မ)က သူ့ကို ပြန်ပေးတာကိုး။ ရှေ့နေလေးရဲ့ စာရေးသို့ ဂရက်တီယန်နို ပေးခဲ့တဲ့ လက်စွပ်ကိုပဲ. . . နာရစ်ဆာက ဂရက်တီနို ကို ပြန်ပေးပါတယ်။

"ရှင်တို့အားလုံး အံ့အားတွေသင့်ကုန်ကြပြီ မဟုတ် လား. . ."လို့ အံ့သြပြီး မဝေခွဲနိုင်ဖြစ်နေတဲ့ သူတို့ရဲ့ မျက်နှာလေးတွေကို ကြည့်ရှုရယ်မောရင်း ပေါ်ရှားက ပြောပါ တယ်။"ဒါပေမယ့်. . . ဟောဒီမှာ စာတစ်စောင်၊ ရှင်တို့ အားလုံး ဖတ်ကြည့်ကြပေရော့. . .၊ ပေါ်ရှားဟာ ရှေ့နေ လေး၊ နာရစ်ဆာဟာ သူ(မ)ရဲ့စာရေးဆိုတာ (စာထဲမှာ)ရှင် တို့ တွေ့ရပါလိမ့်မယ်. . ."

"မင်းက ရှေ့နေလေးလား. .၊ကိုယ်. . . သိတောင် မသိဘူး. . ."လို့ ဘတ်ဆန်နီယိုက တအံ့တသြမေးတော့ ပေါ်ရှားက. . .



'Yes,' Portia said, 'Lorenzo will tell you that I have only just returned from Venice.' She turned to Antonio. 'Antonio, you are welcome,' she said. 'And I have better news for you than you expect. Three of your ships have arrived safely back in harbour, and your money is safe.'

And so there were great rejoicings at the house at Belmont, and all was well for Antonio, the brave young merchant of Venice.

“ဟုတ်ပ. .၊ ကျွန်မ အခုလေးတင်မှ ဗင်းနစ်မြို့က ပြန်ရောက်လာတဲ့အကြောင်း၊ လော်ရန်ဇိုက ရှင်တို့ကို ပြောပြပါ လိမ့်မယ်. . .”(ပြီးတော့) သူ(မ)က အန်တိုနီယိုဘက် လှည့် လိုက်ပြီးတော့. .

“အန်တိုနီယို. . . ရှင့်ကို ကြိုဆိုပါတယ်. .၊ ရှင် မျှော်လင့်ထားတာထက် ပိုကောင်းတဲ့သတင်းတွေ ကျွန်မရရှိ လာပါတယ်။ ရှင်ရဲ့သင်္ဘောသုံးစီးဟာ ဆိပ်ကမ်းကို ချော ချောမောမော ပြန်ရောက်နေပါပြီ။ ရှင့်ရဲ့ ပိုက်ဆံတွေလည်း စိတ်ချရပြီပေါ့”

ဘဲလ်မောင့်မှာရှိတဲ့ (ပေါ်ရှားတို့)အိမ်တော်ကြီးမှာ ကြည်နူးရွှင်ပျ၊ ဝမ်းသာမှုအပေါင်း ခညောင်းလို့ နေပါတယ်၊ ဗင်းနစ်မြို့က ရဲ့ရင့်တဲ့ ကုန်သည်လေး အန်တိုနီယိုအတွက် လည်း အစစအရာရာ အားလုံးအဆင်ပြေ ချောမောသွားပါ တော့တယ်။

**မောင်သိန်းလွင်**

# JULIUS CAESAR

## PEOPLE IN THE STORY

JULIUS CAESAR
OCTAVIUS CAESAR } faithful of Caesar
MARK ANTONY
BRUTUS } among those who planned Caesar's death
CASSIUS
CASCA
DECIUS
CALPURNIA, Caesar's wife

Two thousand years ago there lived in Rome a great soldier and leader, Julius Caesar. He was famous all over Europe as a conqueror, and when he returned to Rome he was admired by his people as a national hero.

## ဂျူးလီးယပ်ဆီဇာ

ဇာတ်ကောင်များ (ပုံပြင်တွင် ပါဝင်သူများ)

| | |
|---|---|
| ဂျူးလီယက်ဆီဇာ | |
| ဩတေးဗီးယပ်ဆီဇာ<br>မတ်အန်ထော်နီ | ဆီဇာအားသစ္စာရှိသူများ |
| ဗရူးတပ်<br>ကက်စီးယပ်<br>ကက်စကာ<br>ဒီစီးယပ် | ဆီဇာအား သတ်ဖြတ်ရန် စီစဉ်သူများ |
| ကာပေါနီးယား | = ဆီဇာ၏ ဇနီး |

ဟိုးလွန်ခဲ့တဲ့ နှစ်ပေါင်းနှစ်ထောင်လောက်က ပေါ့. . ရောမမြို့မှာ ကြီးကျယ်မြင့်မြတ်တဲ့ စစ်သည်တော်ကြီးနဲ့ ခေါင်းဆောင်ကြီး ဂျူးလီယပ်ဆီဇာဆိုတာ နေထိုင်ခဲ့တယ်၊ သူဟာ. . . ဥရောပတစ်ခွင်မှာ အောင်နိုင်သူတစ်ယောက်အဖြစ် ထင်ရှားကျော်ကြားခဲ့တယ်။ (စစ်ပွဲတွေတိုက်ခိုက်အောင်မြင်ပြီး) ရောမကို ပြန်လာတဲ့အခါ သူ့ရဲ့ လူထုကြီးတစ်ရပ်လုံးက သူ့ကို အမျိုးသားသူရဲကောင်းကြီး တစ်ဦးအဖြစ်နဲ့ ဂုဏ်ပြုချီးကျူး ကြိုဆိုကြတယ်။



There were, however, certain Romans, many of them Caesar's friends and companions, who were afraid of his increasing greatness. They suspected that he was too ambitious; that he wished to become King of the Roman people in order to gain absolute power in affairs of State.

Living in Rome at that time there was a man named Brutus. Brutus had high and noble morals and a very genuine desire to do what was best for Rome. Caesar was his dearest friend, but Brutus watched his growing ambition with great anxiety. Caesar showed signs of increasing self-importance; he seemed almost to imagine that he was a god among men, and Brutus was greatly troubled.

ဒါပေမဲ့ ရောမလူမျိုး အချို့ကတော့ သူ့ရဲ့ ကြီးမြင့်တိုးပွားလာတဲ့ အရေးပါ အရာရောက်မှု၊ ကြီးမြတ်မှုတွေအတွက် ကြောက်ရွံ့စိုးရိမ်လာကြတယ်၊ အဲဒီအထဲက တော်တော်များများကတော့ ဆီဇာရဲ့မိတ်ဆွေတွေ၊ အပေါင်းအသင်းတွေပေါ့။ ဆီဇာဟာ ရည်ရွယ်ချက်တွေ သိပ်ကြီးမားလွန်းနေပြီ။ နိုင်ငံတော်ရဲ့ အရေးကိစ္စတွေကို စီမံတဲ့နေရာမှာ အကြွင်းမဲ့အာဏာကို ရရှိစေဖို့ ရောမလူမျိုးတို့ရဲ့ ဘုရင်ဖြစ်ချင်နေပြီ. . . လို့ သူတို့က သံသယဝင် အထင်ရောက်နေကြတယ်လေ။

အဲဒီအချိန်မှာ. . . ရောမမြို့မှာ ဗရူးတပ်ဆိုတဲ့ လူတစ်ယောက်လည်းရှိတယ်၊ သူက မြင့်မြတ်တဲ့ အကျင့်သိက္ခာရှိသူဖြစ်တယ်၊ ရောမရဲ့ ကောင်းကျိုး၊တိုင်းပြည်ကောင်းကျိုးအတွက် အကောင်းဆုံး ဆောင်ရွက်မယ်ဆိုတဲ့ တကယ့်ကိုစစ်စစ်မှန်မှန် ဆန္ဒရှိသူလည်း ဖြစ်တယ်၊ ဆီဇာက သူ့ရဲ့အချစ်ဆုံး၊ အရင်းနှီးဆုံး သူငယ်ချင်းပေါ့၊ ဒါပေမယ့် ဗရူးတပ်က ဆီဇာရဲ့ တရိပ်ရိပ်ကြီးထွားလာတဲ့ ရည်ရွယ်ချက်(လောဘ)တွေကို အလွန်အမင်း စိုးရိမ်စိတ်နဲ့ စောင့်ကြည့်နေတာပါတယ်။

ဆီဇာဟာ စိတ်ကြီးဝင်ပြီး အတ္တလွန်ကဲတဲ့ လက္ခဏာ၊ အရိပ်အယောင်တွေကို ပြသခဲ့တယ်၊ လူတွေကြားမှာ သူကနတ်ဘုရားတစ်ဆူလို့ မှတ်ယူတော့မလောက်နီးပါး. . . အခြေအနေတွေ ဖြစ်လာခဲ့တယ်၊ ဗရူးတပ်ကလည်း အဲဒါအတွက် တော်တော်ကို စိတ်ပူပန်မိပါတယ်။



One day Brutus met his brother-in-law, Cassius, in the street. Julius Caesar had just gone to watch the National Games, and there would be thousands of people there. Cassius suspected that Caesar might be offered the crown that very day. They heard the Roman people shouting in the distance, and Brutus feared the same thing.

'What means this shouting?' he said anxiously. 'I fear the people choose Caesar for their king.'

'Do you fear it? Cassius said. 'Then I think you would not have it so?'

'I would not, Cassius,'Brutus answered heavily.'Yet I love him well.'

တစ်နေ့. . . ဗရူးတပ်က သမီးယောက်ဖတော်တဲ့ ကက်စီးယပ်ကို လမ်းပေါ်မှာ တွေ့တယ်၊ (အဲဒီအချိန်မှာ) ဆီဇာဟာ အမျိုးသားအားကစားပွဲတော်ကို ကြည့်ရှုဖို့ ထွက်သွားရုံလေးရှိသေးတယ်၊ အဲဒီ အားကစားပွဲမှာ လူတွေ ထောင်နဲ့ချီပြီး အမြောက်အမြားရှိနေလိမ့်မယ်၊ ဒီနေ့ပဲ. . ဆီဇာကို(လူထုက) ဘုရင့်သရဖူအပ်နှင်းလိမ့်မယ်. . . လို့ သူက ထင်မြင်ယူဆနေတယ်၊ ခပ်လှမ်းလှမ်း (အားကစားပွဲနေရာ)မှာ၊ လူထုကြီးက (တစ်ခဲနက်) အော်ဟစ်ကြွေးကြော်တဲ့ အသံတွေကိုလည်း သူတို့ ကြားကြရတယ်၊ ဗရူးတပ်က လည်း အလားတူ ကိစ္စအတွက်ပဲ စိုးရိမ်နေတာ။ဗရူးတပ်က

"ခုလို အော်ဟစ်နေကြတာက ဘာအဓိပ္ပါယ်များပါလိမ့်. . . "လို့ စိုးရိမ်စိတ်နဲ့ မေးလိုက်တယ်။"ဆီဇာကို လူထုက ဘုရင်အဖြစ် တင်မြှောက်လိုက်မှာကို ငါစိုးရိမ်လိုက်တာ. . "လို့ သူကပြောတော့. .

"ခင်ဗျားက စိုးရိမ်တယ်. . . ?၊ခင်ဗျား ဒီလို စိုးရိမ်စိတ်တွေ ရှိမှာမဟုတ်ဘူးလို့ ကျွန်တော် ထင်နေတာ. . . "လို့ ကက်စီးယပ်က ပြောတယ်။

"ကျုပ်မှာ စိုးရိမ်စိတ် မရှိရဘူးလား. . . ကက်စီးယပ်. . . "ဗရူးတပ်က စိတ်လက်မသာမယာနဲ့ ပြန်ပြောတယ်။"ဒါပေမယ့် ကျုပ်သူ့ကို သိပ်ခင်မင်ပါတယ်. . . ချစ်ပါတယ်. . . "



Now, Cassius was a member of the Roman Party which did not wish Caesar to be made king, and he had been sent by his companions to persuade Brutus to join them and become their leader. As well as being a great friend of Caesar's, Brutus was a brave soldier and a famous man, greatly loved by the Roman people, who would be more likely to follow his leadership than that of a less important man.

So Cassius started to poison Brutus's mind against Caesar. 'Why should he think himself so great?' Cassius cried. 'I was born as free as Caesar; so were you.

ကက်စီးယပ်က ရောမပါတီရဲ့ အဖွဲ့ဝင် တစ်ယောက်လေ. . .၊ ဆီဇာကို ဘုရင်အဖြစ် တင်မြှောက်မှာကို မကြိုက်တဲ့ပါတီပေါ့. . .၊ ကက်စီးယပ်ကို ဗရူးတပ်ဆီကိုသွားဖို့ သူ့ရဲ့အပေါင်းအသင်း(အဖွဲ့ဝင်)တွေက လွှတ်လိုက်တာ၊ ကက်စီးယပ်အနေနဲ့ ဗရူးတပ်ကို သိမ်းသွင်းဖို့. . .၊ သူတို့ပါတီနဲ့ဆက်သွယ်ပြီး သူတို့ရဲ့ ခေါင်းဆောင်အဖြစ် ဆောင်ရွက်ပေးဖို့ စည်းရုံးဖို့ ဖြစ်ပါတယ်။

ဆီဇာရဲ့ အရင်းနှီးဆုံးမိတ်ဆွေတစ်ယောက်ပီပီ ဗရူးတပ်ဟာ ရဲရင့်တဲ့ စစ်သားကောင်းကြီးတစ်ယောက်ဖြစ်သလို. . .၊ ကျော်ကြားထင်ရှားတဲ့ ပုဂ္ဂိုလ်ကြီးတစ်ဦးလည်းဖြစ်ပါတယ်။ ရောမလူထုကြီးတစ်ရပ်လုံးရဲ့ ချစ်ခင်မြတ်နိုးမှုကို ခံရသူလည်းဖြစ်ပါတယ်။ အရေးမပါ အရာမရောက်တဲ့လူတစ်ယောက်ရဲ့ ခေါင်းဆောင်မှုထက် သူလို (ထင်ရှားကျော်ကြားတဲ့)လူရဲ့ ခေါင်းဆောင်မှုကို လူထုက လိုလားလိုက်နာကြမှာ ဖြစ်ပါတယ်။

ဒါကြောင့် ဆီဇာနဲ့ပက်သက်ပြီး ဗရူးတပ်ရဲ့ စိတ်တွေဖောက်ပြန်ပျက်စီးလာအောင် ကက်စီးယပ်က စတင်ပြောဆိုပါတယ်။

“ဘာဖြစ်လို့. . . သူက သူ့ကိုယ်သူသိပ်ပြီး ကြီးကျယ်မြင့်မြတ်တယ်လို့ ထင်နေရတာလဲ. . .? ကျွန်တော်လည်းဆီဇာလိုပါပဲ။ လွတ်လွတ်လပ်လပ် မွေးဖွားလာခဲ့သူတစ်ယောက်ပါပဲ၊ ခင်ဗျားလည်း အတူတူပဲပေါ့၊



We both have fed as well, and we can both endure the winter's cold as well as he. But this man is now become a god, and Cassius is a wretched creature who must bend his body if Caesar carelessly looks at him.'

There was another great shout from the distance and Cassius, watching Brutus's troubled face, went on: 'Brutus and Caesar what is there in that "Caesar"? Why should that name be more important than yours? In the name of all the gods, upon what meat does Caesar feed, that he is grown so great?



ကျုပ်တို့နှစ်
)ကောင်းကောင်းမွန်မွန်
စားသောက်ကြးပြင်းခဲ့ကြတယ်၊ ဆောင်းဥတုရဲ့ အအေး
ဒဏ်ကိုလည်း သူလိုပဲ ခံနိုင်ရည်ရှိကြတယ်၊ ဒါပေမယ့် ဒီ
ပုဂ္ဂိုလ်ကြီးက အခုတော့ နတ်ဘုရားတစ်ဆူဖြစ်လာပြီဗျ. .၊
ကက်စီးယပ်ဆိုတဲ့ ကျုပ်ဟာ အသုံးမကျတဲ့ အလကားကောင်
ဖြစ်သွားပြီ၊ ဆီဇာက (သူ့ကို) အမှတ်မထင်လေး လှည့်ကြည့်
လိုက်ရင်တောင် ခန္ဓာကိုယ်ကို ကိုင်းညွတ်ပြီး အရိုအသေ
ပေးရမယ့်သူ ဖြစ်နေပြီဗျ. . .”လို့ ကက်စီးယပ်က ပြော
တယ်။

ခပ်လှမ်းလှမ်းက . . လူထုရဲ့ နောက်ထပ် အော်
ဟစ်ကြွေးကြော်သံကြီးကို ကြားကြရပြန်တယ်၊ ကက်စီးယပ်
က ဗရူးတပ်ရဲ့ ပူပန်သောကရောက်နေတဲ့ မျက်နှာသွင်ပြင်
ကို စောင့်ကြည့်ရင်း စကားဆက်တယ်။

“ဗရူးတပ်နဲ့ဆီဇာ. . .၊ ဆီဇာ ဆိုတာထဲမှာ ဘာတွေ
ရှိနေတာမို့လဲ. . .?၊ ဘာကြောင့် အဲဒီနာမည်က ခင်ဗျားရဲ့
နာမည်ထက်ပိုပြီး အရေးပါအရာရောက်နေရတာလဲ. .?၊
နတ်ဘုရားအဆူဆူကို တိုင်တည်ပြီး ပြောလိုက်ချင်ပါရဲ့၊
ဘယ်လိုအသား (ဘယ်လိုအစားအသောက်)ကို ဆီဇာက
စားသောက်နေတာမို့ ဒီလောက်ထိ သိပ်ကို ကြီးကျယ်မြင့်
မြတ်နေရတာလဲ. . .?”



He paused, waiting for Brutus's reply.

'I have often though about these things,' Brutus answered slowly, 'and I will consider what you have said. But now Caesar is returning, so say no more.'

The two men stood in silence as Julius Caesar passed them, and they noticed how pale and angry he looked. After he had gone, they asked Casca, another member of Cassius's Party, what was the cause of Caesar's anger. Casca, who had been watching the Games, explained what had happened. Mark Antony, another famous soldier who had taken part in the Games, had offered the crown three times to Caesar. Three times Caesar had refused it, but each time he was slower in his refusal.

ဗရူးတပ်ရဲ့ ပြန်ကြားချက်ကို စောင့်ဆိုင်းရင်းနဲ့ သူ (ကက်စီးယပ်)က စကားကို ခေတ္တရပ်လိုက်တယ်။

"ကျုပ်လည်း ဒီကိစ္စတွေနဲ့ပတ်သတ်ပြီး မကြာခဏ ဆိုသလို တွေးတောမိပါတယ်. . ."လို့ ဗရူးတပ်က ဖြည်း ဖြည်းချင်းပြောလိုက်တယ်။ "ခင်ဗျားပြောတာတွေကို ကျွန်တော်စဉ်းစားပါ့မယ်. . . ဒါပေမယ့် အခု ဆီဇာ ပြန် လာနေပြီ ဆက်မပြောနဲ့တော့. . ."

ဂျူးလီယက်ဆီဇာ ဖြတ်သွားခိုက်မှာ. . . သူတို့နှစ် ယောက်လုံး ငြိမ်ငြိမ်လေး ရပ်နေလိုက်ကြပါတယ်။ ဆီဇာရဲ့ မျက်နှာဟာ ဖြူဖပ်ဖြူရော်နဲ့ ဒေါသထွက်နေဟန်ရှိတာကို သူတို့ သတိပြုမိကြတယ်၊ ဆီဇာ ဖြတ်သွားပြီးတဲ့အခါ ဆီဇာ ဒေါသထွက်ရတဲ့အကြောင်းရင်းက. . . ဘာလဲ?လို့သူတို့ က ကက်စကာကို မေးကြည့်ကြတယ်။ ကက်စကာဆိုတာ. . ကက်စကီးယပ်တို့ပါတီက (အခြား)အဖွဲ့ဝင်တစ်ယောက်လေ. . ၊ ကက်စကာက အားကစားပွဲတော်ကို (စောင့်)ကြည့်ခဲ့သူ ဆိုတော့ ဘာတွေဖြစ်ပျက်ခဲ့တယ်ဆိုတာကို ရှင်းပြတယ်။

ဒီကစားပွဲမှာ ရှိနေ၊ ပါဝင်ဆင်နွှဲနေတဲ့. . . စစ် သည်ကျော် (စစ်ခေါင်းဆောင်)ကြီး မတ်အန်ထော်နီက ဆီဇာကို(ဘုရင်အဖြစ်)သရဖူ သုံးကြိမ်အပ်နှင်းတယ်၊ သုံး ကြိမ်လုံးလုံး ဆီဇာက ငြင်းပယ်ခဲ့တယ်. . .၊ ဒါပေမယ့်. . သူရဲ့ငြင်းပယ်ချက်က. . . တစ်ကြိမ်ထက်တစ်ကြိမ်. . . နွေးသည်ထက် နွေး. . . လာတယ်။

39




'Why were the people shouting? Brutus asked, and Casca explained that they were cheering Caesar because he had refused the crown, and this had displeased the great man. Casca was certain that, if Caesar were offered the crown again, he would accept it.

Brutus went home, greatly disturbed in mind. He spent a sleepless night in worrying and wondering what to do. How could they cure Caesar of his proud nature? By what means could they save Rome from his ambitious greed? 'It must be by his death,' he at last decided sadly. 'We could never be certain how Caesar might act if he gained absolute power.'

"လူတွေက ဘာဖြစ်လို့ ဟစ်အော်ကြွေးကြော်နေတာလဲဗျ. . . ?"လို့ ဗရူးတပ်က မေးတော့ ကက်စကာက ရှင်းပြတယ်။

ဆီဇာက သရဖူကို လက်မခံဘဲငြင်းလို့ သူတို့က. . . ချီးကျူးသြဘာထောပနာပြုရင်းနဲ့ အော်ဟစ်ကြွေးကြော်ကြတာပါပဲ. . . အဲဒီလို ချီးကျူးတာကိုက ဒီပုဂ္ဂိုလ်ကြီးကို မကျေမနပ်ဖြစ်စေတာပါပဲ။ တကယ်လို့များ နောက်တစ်ကြိမ် "သရဖူ"ကို ဆက်မယ်ဆိုရင် ဆီဇာ လက်ခံမှာပဲ. . . ဆိုတာ ကျိန်းသေပြောရဲတယ်. . . လို့ ကက်စကာက ဆိုတယ်။

ဗရူးတပ်လည်း အလွန်အမင်း စိတ်အနှောင့်အယှက်ဖြစ်ပြီး အိမ်ပြန်သွားပါတယ်။ ဘာလုပ်ရပါ့မလဲ. . . လို့ တွေးတောပူပန်တဲ့စိတ်နဲ့. . . အိပ်မပျော်တဲ့တစ်ညတာကို ကုန်လွန်ခဲ့ရပါတယ်။ ဆီဇာရဲ့ မာန်တက်နေတဲ့ စိတ်ဓာတ်ကို (အမှန်မြင်လာအောင်) ဘယ်လိုကုစားရပါ့မလဲ. . . ? သူ့ရဲ့ အာသာငမ်းငမ်းဖြစ်နေတဲ့ လောဘဇောကနေ ရောမကို ဘာနည်းလမ်းနဲ့ ကယ်တင်ရပါ့မလဲ. . . ? (တိုင်းပြည်ကို ကယ်တင်ချင်ရင်) သူ့ကို သုတ်သင်သတ်ဖြတ်ခြင်း နည်းလမ်းကိုပဲ. . . သုံးရတော့မှာပေါ့. . . "လို့ နောက်ဆုံးမှာ ကြေကွဲစွာနဲ့ သူဆုံးဖြတ်ချက် ချလိုက်ရပါတယ်။ ဆီဇာသာ (အချုပ်အခြာအာဏာရ) သက်ဦးဆံပိုင် ဘုရင်ဖြစ်သွားရင် သူ ဘယ်လို ပြုမူလုပ်ကိုင်မယ်ဆိုတာ. . . တို့တွေ ဘယ်တော့မှ. . . ကံသေကံမ ပြောနိုင်မှာ မဟုတ်တော့ဘူး. . . "လို့ စဉ်းစားတွေးတောနေမိတယ်။



It was still the middle of the night when Cassius, Casca, Decius and the other members of their Party came secretly to see Brutus. Together they disussed their plans: Caesar was to be killed the next day at the Town Hall (the Capitol) where he was going to make a speech to the people. The question was whether he alone should be killed, or whether any of his sympathisers, like Mark Antony, were to be killed with him.

Cassius said: 'I think it is not right that Mark Antony, so well beloved by Caesar, should outlive him. We shall find him a clever and dangerous enemy.'



လူခြေတိတ်. . ဆိတ်ငြိမ်လှတဲ့ ညသန်းခေါင်ချိန်မှာ ကက်စီးယပ်၊ ကက်စကာ၊ ဒီစီးယပ်နဲ့ သူတို့ပါတီရဲ့ အခြား အဖွဲ့ဝင်တွေဟာ ဗရူးတပ်ထံ တိတ်တဆိတ် လာရောက် တွေ့ဆုံကြတယ်။ သူတို့ရဲ့ အစီအစဉ်တွေကို သူတို့တွေ. . . အတူတကွ ဆွေးနွေးကြတယ်။ နောက်နေ့. . . ဆီဇာကို မြို့တော်ခန်းမ (ကက်ပီတိုအဆောက်အဦ)မှာ သတ်ဖြတ် ကြမယ်. . .၊ အဲဒီနေရာမှာ ဆီဇာက လူထုကို မိန့်ခွန်းပြော မှာလေ. . .၊ (ဒါပေမယ့်) ပြဿနာက ဆီဇာတစ်ယောက် ထဲကိုပဲ သတ်သင့်သလား. . .၊ မတ်အန်တော်နီတို့လို ဆီဇာ ကို လိုလားတဲ့ ဆီဇာရဲ့ ဘက်တော်သားတွေကိုပါ သတ်ရမှာ လား. . . ဆိုတဲ့ ပြဿနာက ရှိလာတယ်။

မတ်အန်ထော်နီလို ဆီဇာနဲ့ သိပ်ရင်းနှီး ချစ်ခင်တဲ့ လူမျိုးကို အသက်ချမ်းသာ မပေးသင့်ဘူး၊ (သူ့ကို မသတ်ရင် တစ်နေ့မှာ) သူဟာ (အင်မတန်) ထက်မြက်ပြီး အန္တရာယ်ကြီး တဲ့ ရန်သူတစ်ယောက ဖြစ်လာလိမ့်မယ်. . . ”လို့ ကက်စီး ယပ်က ပြောတယ်။



But the noble Brutus would not permit this. ‘Antony is but a limb of Caesar’s’, he said. ‘He can do no more than Caesar’s arm when Caesar’s head is off.’ He shook his head and spoke with great urgency. ‘I wish we couled cure Caesar’s ambition without killing him, but I doubt if that is possible so Caesar must die. But, friends, let us kill him bravely, not angrily. We must have no bitterness in our hearts.’

So it was decided that only Caesar should die, and, after making their last arrangements, the men went home to wait until morning.

ဒါပေမယ့် မြင့်မြတ်တဲ့ ဗရှူးတပ်ကတော့ ဒီကိစ္စကို ခွင့်ပြုလိမ့်မယ် မဟုတ်ပါဘူး၊ "အန်တော်နီဆိုတာ ဆီဇာရဲ့ ခြေဖျားလက်ဖျားလောက် ရှိတာပဲ၊ ဆီဇာရဲ့ ခေါင်းကိုဖြတ် လိုက်ပြီးမှတော့ ဒီခြေဖျားလက်ဖျားက သူ့ရဲ့လက်ရုံးလက် မောင်းထက်တော့ ပိုပြီး မလှုပ်ရှားနိုင်ပါဘူး. . . "၊ သူက သူရဲ့ ဦးခေါင်းကို ခါယမ်းပြီး အရေးတကြီး အလေးအနက် ပြောလိုက်တယ်။"ဆီဇာကို မသတ်ဘဲနဲ့ သူ့ရဲ့ (အာဏာမက်တဲ့)လောဘစိတ်ကို ကုစားလို့ ရရင်ကောင်းမှာ. . . လို့ တောင့်တမိတယ်။ ဒါပေမယ့် ဒီနည်းလမ်းဟာ ဖြစ်နိုင်ပါ့ မလား. . . လို့ သံသယဖြစ်မိတယ်၊ ဒါကြောင့်လည်း ဆီဇာ သေရမယ် (ဆီဇာကို သတ်ရမယ်)လို့ ဆုံးဖြတ်ခဲ့ခြင်း ဖြစ်တယ်။ ဒါပေမယ့်. . . မိတ်ဆွေတို့. . . ရောင်းရင်းတို့. . . ၊ ဆီဇာကို သတ်တဲ့အခါ သတ္တိရှိရှိ ရဲရဲရင့်ရင့် သတ်ကြပါစို့။ ဒေါသတကြီးနဲ့ မသတ်ကြပါနဲ့၊ ကျုပ်တို့ရဲ့ နှလုံးသားထဲမှာ ခါးသီးမှု၊ နာကျည်းမှု၊ အမုန်းအာဃာတတွေ မရှိရပါဘူး။"

ဒါကြောင့်. . . ဆီဇာ တစ်ယောက်တည်းပဲ သေသင့်တယ်၊ ဆီဇာ တစ်ယောက်တည်းကိုပဲ သတ်မယ်လို့. . . ၊ ဆုံးဖြတ်လိုက်ကြတယ်။ သူတို့ရဲ့ နောက်ဆုံးအစီအစဉ်တွေကို လုပ်ပြီးတဲ့အခါမှာတော့. . . သူတို့တွေဟာ နောက်တစ်နေ့မနက်ရောက်တဲ့အထိ စောင့်ဆိုင်းကြမယ်ဆိုပြီး လူစုခွဲ. . . အိမ်ပြန်သွားကြတယ်။



The next day was dark and cloudy. There had been thunder and lightning all night long with terrible storms of wind, and the whole earth had shaken and trembled. Julius Caesar, getting up after a restless night, was begged by his wife, Calpurnia, not to go to the Capitol that morning. She said she had had a most frightening dream, in which Caesar's statue, which stood in the market place, had poured forth blood and the Roman people came, smiling, to wash their hands in it.

နောက်တစ်နေ့မှာတော့. . . မိုးကောင်းကင်က အုံ့ မှိုင်းပြီး မိုးသားတိမ်လိပ်တွေ ဖုံးလွှမ်းနေပါတယ်။ ညက တစ်ညလုံး လျှပ်စီးတွေလက်၊ မိုးကြိုးတွေပစ်. . .၊ လေပြင်းတွေတိုက်. . . မုန်တိုင်းတွေကျ၊ မြေငလျင်တွေလှုပ်ခါ. . . ပြီး ကမ္ဘာမြေကြီး တုန်ဟီးခဲ့ပါတယ်။ အိပ်မရ. . . အိပ်မပျော်တဲ့ တစ်ညတာကနေ ဆီဇာ နိုးထလာတဲ့အခါမှာတော့ ဇနီးဖြစ်သူ ကာပေါနီးယားက တောင်းပန်တယ်. . .၊ ဒီနေ့ မြို့တော်ခန်းမ ကက်ပီတို အဆောက်အဦကို မသွားပါနဲ့. . . ပေါ့။ သူ(မ)က ပြောပြတယ်. . . ညက ကြောက်စရာအကောင်းဆုံး အိပ်မက်ဆိုးကြီးတစ်ခု မြင်မက်ခဲ့ပါတယ်. . .၊ စျေးနေရာမှာရှိတဲ့ ဆီဇာရဲ့ ရုပ်တုကနေ သွေးတွေ ယိုစီးပြီး ကျတယ်. .၊ ရောမကလူတွေ. . . ရုပ်တုဆီ ပြုံးပြုံးရွှင်ရွှင်နဲ့ လာရောက်ကြတယ်၊ သူတို့ရဲ့ လက်တွေကို သွေးထဲမှာ နှစ်ပြီး၊ ဆေးကြောကြတာကို. . . အိပ်မက်ထဲမှာ မြင်မက်တယ်. . . တဲ့။



'Caesar, I used not to be superstitious,' Calpurnia cried, 'but the most fearful and unusual things happened in Rome last night. Someone saw a lion in the market place, and graves opened and gave up their dead. There was the noise of battle in the air, and the cries of men and horses in pain. O Caesar! These things are beyond all understanding and I do fear them. I am sure they are warnings: something teribile is going to happen to you.'



ကာပေါနီးယားက ငိုကြွေးတောင်းပန်တယ်. . . ဆီဇာရယ်. . . ကျွန်မ အယူမသီးတတ်ပါဘူး၊ ဒါပေမယ့် ကြောက်စရာအကောင်းဆုံးနဲ့ ထူးခြားတဲ့. . . ဖြစ်ရိုးဖြစ်စဉ် မဟုတ်တဲ့ အရာတွေ. . . မနေ့ညက ရောမမှာ ဖြစ်ပျက်ခဲ့ပါတယ်။ ဈေးကွက်၊ ဈေးနေရာမှာ ခြင်္သေ့ကြီးတစ်ကောင်ကို တွေ့ခဲ့ရတယ်၊ ဂူသင်္ချိုင်းတွေ ပွင့်လာကြပြီး အသုဘရုပ် အလောင်းတွေ ပေါ်လာကြတယ်၊ ကောင်းကင်ယံမှာ တိုက်ပွဲတွေဖြစ်ပြီး တိုက်ခိုက်သံတွေ ကြားခဲ့ရတယ်၊ နာကျင်မှုကြောင့် အော်ဟစ်ကြတဲ့လူတွေ၊ မြင်းတွေရဲ့ အော်ညည်းသံတွေ ကြားကြရတယ်၊ အို. . . ဆီဇာရယ်. . . ဒီအကြောင်းအချက်တွေဟာ နားမလည်နိုင်လောက်တဲ့(ရှင်းပြလို့မရတဲ့) အချက်တွေပါပဲ. . . ကျွန်မ တကယ်ကို ကြောက်ရွံ့စိုးထိတ်မိပါတယ်။ အဲဒါတွေဟာ ရှေ့ပြေးအတိတ်နမိတ်တွေဆိုတာ သေချာပါတယ်။ ကြောက်မက်ဖွယ်ကောင်းတဲ့ တစ်စုံတစ်ရာဟာ သင့်အပေါ် ကျရောက်ဖြစ်ပျက်တော့မှာ. . . သေချာပါတယ်. . . ”



Caesar tried to comfort his wife by asking her why anything should happen to him in particular. If these strange events were really warnings, they were probably meant as warnings to the world in general and not only to him.

But Calpurnia refused to be comforted. 'When beggars die, there are no new stars seen,' she insisted, 'but the heavens temselves flash forth the death of kings.'



ဆီဇာက သူရဲ့ဇနီးသည်ကို ကြိုးစားပြီး နှစ်သိမ့်စကားဆိုပါတယ်၊ ဘာကြောင့် . . . သူတစ်ယောက်တည်းအတွက်သာ ကွက်ပြီး တစ်စုံတစ်ခု ဖြစ်မှာလဲ . . .၊ ဒီထူးဆန်းတဲ့ အဖြစ်အပျက်တွေဟာ တကယ့်အတိတ်နမိတ်တွေဖြစ်တယ်ဆိုရင် . . . တစ်လောကလုံးမှ လူအားလုံးအတွက်ယေဘုယျသဘော သတိပေးတာသာ ဖြစ်မှာပါ။ သူတစ်ယောက်တည်းအတွက်သာကွက်ပြီး ဖြစ်မှာ မဟုတ်ပါဘူး . . ပေါ့။

ဒါပေမယ့် . . . ကာပေါနီးယားက နှစ်သိမ့်ဖျောင်းဖျမခံဘူး၊ သူ(မ)က အတင်းအကျပ်ပဲ ပြောကြားပါတယ် . . "သူတောင်းစားတွေသေရင် ကြယ်နက္ခတ်အသစ်တွေကို (ထူးထူးခြားခြား) မမြင်တွေ့နိုင်ပါဘူး . . .၊ ဘုရင်မင်းမြတ်တွေ နတ်ရွာစံတော့မယ်ဆိုရင်တော့ နတ်ရွာစံကံတော်မကုန်ခင် မိုးကောင်းကင်က အရောင်တွေလင်းလက်ပြီး အချက်ပေး နိမိတ်ထင်တတ်ပါတယ် . . . "



At last she was successful in persuading Caesar to stay at home, but Cassius had suspected that this might happen and he sent Decius to call for Caesar and bring him to the Capitol. When Decius heard about Calpurnia's dream, he laughed at her fears 'Why,' he said, 'you have interpreted the dream all wrong. The blood from Caesar's statue, in which so many smiling Romans dipped their hands, means that great Rome will suck fresh blood from Caesar.' He turned persuasively to Caesar. 'It means that your people will find new greatness under your rule.'

'You have explained it well,' said Caesar.

နောက်ဆုံးကျတော့ဆီဇာကို အိမ်မှာပဲနေဖို့. . . သူ(မ)ရဲ့ တောင်းပန်နားချတဲ့ စကားတွေက အောင်မြင်သွားပါတယ်။ ဒါပေမယ့်. . . ဒီလို ဖြစ်လိမ့်မယ်ဆိုတာ ကက်စီးယပ်ကလည်း ထင်မြင်တွက်ဆပြီးသား. . .။ ဒါကြောင့် သူက ဆီဇာထံ ဒီစီးယပ်ကို လွှတ်လိုက်တယ်။ မြို့တော်ခန်းမကက်ပီတိုကို ခေါ်လာဖို့လေ. . .။

ဒီစီးယပ်က ကာပေါနီးယားရဲ့ အိပ်မက်အကြောင်းကြားတဲ့အခါ သူ(မ)ရဲ့ စိုးရိမ်ကြောက်လန့်မှုတွေကို ရယ်သွမ်းသွေးပြီး ပြောကြားပါတယ်၊ “ဘာကြောင့်များ. . . ခင်ဗျားက အိပ်မက်ကို တလွဲကြီး အဓိပ္ပါယ်ဖွင့်ဆို ယူဆရတာလဲ. . .၊ ဆီဇာရုပ်တုက ကျလာတဲ့သွေးတွေကို ပြုံးရွှင်နေတဲ့ ရောမလူမျိုးတွေက သူတို့ရဲ့လက်တွေကို နှစ်ပြီးဆေးကြတယ်. . ” ဆိုတဲ့အဓိပ္ပါယ်က ဒီလိုပါ။ ကြီးကျယ်မြင့်မြတ်တဲ့ ရောမဟာ ဆီဇာရဲ့သွေးသစ်တွေကို စုပ်ယူသုံးဆောင်ကြရပါလိမ့်မယ်. . ” သူက ဆီဇာဘက်ကို ဖျောင်းဖျနားသွင်းတဲ့ သဘောနဲ့ လှည့်လိုက်ပြီး“ဆိုလိုတာက အရှင့်ရဲ့ လူမျိုးတွေ. . . တိုင်းသူပြည်သားတွေ. . . ဟာ အရှင်ရဲ့ အုပ်ချုပ်မှုအောက်မှာ ကြီးကျယ်မြင့်မြတ်မှု အသစ်တွေကို တွေ့ရှိခံစားရပါလိမ့်မယ်. . ”

“ဒီကိစ္စ. . . မင်းရှင်းပြလိုက်တော့လည်း. . . အဟုတ်ပါလား” လို့ ဆီဇာက ပြောလိုက်တယ်။



Decius went on to say: ‘I have heard that the people have decided to give this day a crown to Caesar. If you send them word that you cannot come, their minds may change. Besides, they may make fun of you and say: will they not whisper: “See! Caesar is afraid!’

How well Decius knew proud Caesar’s weakness! The leader of the Roman people could not bear to be thought a coward. He turned to his wife and said. ‘How foolish do your fears seem now, Calpurnia. I am ashamed that I gave way to them.’

And wrapping his cloak about him, he went out with Decius to the Capitol.

ဒီစီးယပ်က ဆက်ပြောတယ်၊ "ဒီနေ့ပဲ. . ပြည်သူလူထုက အရှင် ဆီဇာကို ဘုရင်အဖြစ် "သရဖူ"အပ်နှင်းမယ်လို့ ကြားခဲ့ရပါတယ်. . .၊ အရှင်က ဒီနေ့မလာနိုင်ဘူး. . . လို့ အကြောင်းကြားလိုက်ရင်. . . သူတို့ရဲ့စိတ်တွေ ပြောင်းသွားနိုင်ပါတယ်၊ ဒါတင် ဘယ်ကလိမ့်ဦးမတုန်း. . . သူတို့က ပြက်ရယ်ပြုပြီး ပြောကြဆိုကြဦးမှာပေါ့၊ ဆီဇာရဲ့ဇနီး အိပ်မက်ကောင်းတွေ မြင်မက်တဲ့အထိ ဒို့တွေက စောင့်ဆိုင်းကြရမှာလား. . .? ဆီဇာအိမ်ထဲက အိမ်ပြင်မထွက်ဘဲ ပုန်းနေမယ်ဆိုရင် သူတို့က တီးတိုးစကားမဆိုဘဲ နေကြမယ်တဲ့လား. . . ကြည့်လေ. . ဆီဇာကြီးတစ်ယောက် ကြောက်ဒူးတွေ တုန်နေပြီ. . . "လို့။

ဆီဇာရဲ့ ပျော့ကွက်ကို သိလိုက်တဲ့ ဒီစီးယပ်. . .၊ ရောမလူမျိုးတွေရဲ့ ခေါင်းဆောင်တစ်ယောက်ဟာ "သူရဲဘောနည်းတဲ့လူ၊ လူကြောက်"လို့ အထင်ခံရမှာကို ဘယ်လိုခံနိုင်မှာလဲ. . .၊ သူ (ဆီဇာ)က သူ့ဇနီးဘက်ကိုလှည့်ပြီး ပြောလိုက်တယ်၊ "ကဲ. . . ကာပေါနီးယား. . . မင်းရဲ့ စိုးရိမ်မှုတွေဟာ ဘယ်လောက်များ. . . အဓိပ္ပါယ်မဲ့လိုက်သလဲ၊ ရူးမိုက်သလဲဆိုတာ. . . ဒါတွေကို ခွင့်ပြုခဲ့မိတာ ရှက်စရာကောင်းလိုက်တာ. . . ကွာ"

အဲဒီလို ပြောပြီးတော့ သူ့ရဲ့ဝတ်ရုံကို လွှမ်းခြုံဝတ်ဆင်ပြီး ဒီစီးယပ်နဲ့အတူ မြို့တော်ခန်းမ ကက်ပီတိုကို လိုက်ခဲ့ပါတယ်။



Caesar did not know it, but his enemies were all around him at the Capitol. One after another they made some excuse to come up to speak to him, until they all stood beside him: Cassius and Brutus. Decius, Casca, and the rest. Then, at a given signal, Casca drew his sword, crying: ‘Speak hands, for me!’ and drove his weapon deep into Caesar’s back. The others quickly followed his example, and last of all came Brutus.



ဆီဇာမှာတော့ မသိရှာပေဘူး. . .၊ ဒါပေမယ့် ကက်ပီတိုမှာ သူ့ရဲ့ရန်သူတွေက သူ့ဘေးပတ်လည်မှာ ဝန်းရံနေကြလေရဲ့. . .၊ သူနဲ့ စကားပြောဖို့ရာ အကြောင်းပြခွင့်တောင်းပြီး၊ သူ့ရန်သူတွေဟာ တစ်ယောက်ပြီးတစ်ယောက် သူ့အနားကို ချဉ်းကပ်ရောက်လာကြပါတယ်။ သူတို့အားလုံး သူ့နံဘေးကို ရောက်ရှိလာကြတဲ့အထိပေါ့. .၊ ကက်စီးယပ်နဲ့ ဗရူးတပ်၊ ဒီစီးယပ်၊ ကက်စကာနဲ့ ကျန်တဲ့လူတွေ. . .၊ သူတို့လူစုံတဲ့အချိန်မှာ. .၊ အချက်ပေးပြီးတော့ ကက်စကာက သူ့ဓါးကို ဆွဲထုတ်လိုက်တယ်၊ ပါးစပ်ကလည်း ကြွေးကြော်အော်ဟစ်ရင်းနဲ့ ဆီဇာရဲ့ နောက်ကျောကို သူ့ဓါးနဲ့ နက်နက်ရှိုင်းရှိုင်း ထိုးစိုက်လိုက်ပါတယ်၊ အခြားလူတွေကလည်း သူ့အတိုင်း အလျင်အမြန် လိုက်လုပ်ကြတယ်၊ ဓါးနဲ့ဝိုင်းပြီး ထိုးကြတယ်၊ ဆီဇာကို ဓါးနဲ့ နောက်ဆုံးထိုးတဲ့သူကတော့ ဗရူးတပ်. . .



When Caesar saw that even his dearest friend was against him, he cried out in despair: 'You, too, Brutus? Then fall, Caesar!' And he fell dying to the ground.

The attack on Caesar had taken the Roman people completely by surprise, and there was fear and confusion among them all. They heard Cinna call out, 'Liberty! Freedom! Caesar is dead!' and watched sar's blood; then they went half mad with fear, shouting and crying and falling over each other in their  to get away from this terrible scene.

သူ့ရဲ့ အချစ်ဆုံး၊ အရင်းနှီးဆုံး သူငယ်ချင်းက တောင် သူ့ကို ဆန့်ကျင်တာတွေ့ရတော့ ဆီဇာက မျှော်လင့်ချက်ကင်း. . . စိတ်ပျက်လက်လျှော့လိုက်ပြီး **"မင်းလည်း. . . ပါသကိုး ဗရူးတပ်၊ ဒါဆို. . ဆီဇာ. . . သေပေတော့ပေါ့ကွာ"**လို့ ပြောဆိုရင်း သေငယ်ဇောနဲ့ မြေပြင်ပေါ်ကို လဲကျသွားပါတယ်။

ဆီဇာကို လုပ်ကြံတိုက်ခိုက်မှုကြောင့် ရောမလူထုဟာ လုံးဝအံ့အားသင့် ကြက်သေသေခဲ့ရပါတယ်။ သူတို့ကြားမှာ ကြောက်ရွံ့မှုတွေ၊ နားမလည်နိုင်တဲ့ ရှုပ်ထွေးမှုတွေကြောင့် ကစဉ့်ကလျား ဖရိုဖရဲ (ပြေးကြလွှားကြ) ဖြစ်ကုန်ကြပါတယ်။ စင်နာ (ဆိုတဲ့သူ)က အော်ပြောလိုက်တာကိုလည်း သူတို့ကြားကြရပါတယ်။

"လွတ်လပ်ပြီဟေ့. . လွတ်လပ်ပြီကွ၊ ဆီဇာ သေပြီကွ"

သူ့ကို စောင့်ကြည့်ရင်းနဲ့ အခြားလူတွေက သူတို့ရဲ့ လက်တွေကို ဆီဇာရဲ့ သွေးထဲမှာနှစ်ပြီး ဆေးကြာကြတယ်။ ပြီးတော့. . . ကြောက်လွန်းလို့ အရူးတစ်ပိုင်းဖြစ်ကုန်ကြတယ်။ ဒီကြောက်မက်ဖွယ်ရာ မြင်ကွင်းကနေ လွတ်မြောက်ဖို့ ကသုတ်ကရက် ပြေးကြလွှားကြ၊ အော်ကြဟစ်ကြ၊ တစ်ယောက်အပေါ် တစ်ယောက် လဲကြပြိုကြနဲ့ ယောက်ယက်ခက်ကုန်ကြပါတယ်။



It was now that Cassius's wisdom in choosing Brutus for a leader was proved. Brutus, the hero of the Roman people, calmed their anxious hearts. He called out: 'Do not be afraid or run away; stand still. Ambition's debt is paid. We intend no harm to any Roman.'

And the frightened people stopped and listened to him, and when he told them that he would explain everything to them in the market place, they went quietly there and waited for him.

ဒီအချိန်မှာ ဗရူးတပ်ကို ခေါင်းဆောင်အဖြစ် ရွေးချယ်ခဲ့တဲ့ ကက်စီးယပ်ရဲ့ အမြော်အမြင်ဟာ ဘယ်လောက်ထိမှန်သလဲဆိုတာ သက်သေပြနိုင်ခဲ့ပါပြီ၊ ရောမလူမျိုးတွေရဲ့ သူရဲကောင်း ဗရူးတပ်က သူတို့ရဲ့ စိုးရိမ်ကြောင့်ကြနေတဲ့ နှလုံးစိတ်ဝမ်းကို ငြိမ်သက်အေးချမ်းသွားစေပါတယ်၊ သူက အောက်ပြောလိုက်တယ် . . .

**"မကြောက်ပါနဲ့ . . . မပြေးကြပါနဲ့၊ ငြိမ်ငြိမ်သက်သက် ရပ်တန့်ကြပါခင်ဗျာ . . .၊လောဘရမက်ရဲ့ အကြွေးကို ပေးဆပ်လိုက်ခြင်းသာဖြစ်ပါတယ် ခင်ဗျ . .၊ (အခြား) ဘယ်ရောမလူမျိုးကိုမှ ဒုက္ခပေးဖို့ ကျွန်တော်တို့ မရည်ရွယ်ပါဘူးခင်ဗျ . . ."**

ကြောက်ရွံ့ထိတ်လန့်နေကြတဲ့ လူတွေဟာ ရပ်တန့်လိုက်ပြီး၊ သူပြောတာကို နားထောင်ကြတယ်၊ သူ(ဗရူးတပ်)က (ဖြစ်ပျက်ခဲ့တဲ့) အရာရာနဲ့ ပက်သက်ပြီး ဈေးကွက်နေရာမှာ သူတို့ကို ရှင်းပြပါမယ် . . . လို့ ပြောလိုက်တော့ လူတွေအဲဒီနေရာကို ငြိမ်ငြိမ်သက်သက်ပဲ . . . သွားပြီး သူ့ကို စောင့်ဆိုင်းနေပါတယ်။



Meanwhile, Mark Antony, who had remained faithful to Caesar, came to the Capitol. He spoke bitterly to Brutus, asking him if he intended to murder anyone else. 'If I myself, there is no hour so fit as Caesar's death hour. Kill me now!'

'O Antony, beg not your death of us,' said Brutus gently. He explained that they had killed Caesar for the good of Rome, because of his proud and ambitious nature. 'For you part, to you our swords have leaden points, Mark Antony. Our hearts receive you with brotherly love. Only be patient until we have calmed the people, who are filled with fear, and then we will explain to you why I, who loved Caesar even when I struck him, have done this thing.'

အဲဒီအခိုက်မှာ ဆီဇာအပေါ် သစ္စာစောင့်သိဆဲဖြစ်တဲ့ မတ်အန်ထော်နီဟာ ကက်ပီတိုကို ရောက်ရှိလာပါတယ်။ သူက ဗရူးတပ်ကို နာနာကြည်းကြည်း ခါးခါးသီးသီး ပြောတယ်၊ မေးလဲမေးလိုက်သေးတယ်။ "အခြားတစ်ယောက်ကို သတ်ဖို့ကော ရည်ရွယ်ချက် ရှိသေးသလား. . ."

"ဆီဇာသေတဲ့အချိန် သေသင့်တဲ့လူဟာ ကျုပ်ကိုယ်တိုင်ပဲ. . . ဆိုရင် ကျုပ်ကို ခုပဲသတ်လိုက်လေ. . ."

"အိုး. . . အန်ထော်နီ. . ရယ်၊ သေဖို့သတ်ဖို့တွေ မပြောဆို၊ မတောင်းဆိုစမ်းပါနဲ့"လို့ ဗရူးတပ်က နူးညံ့ညင်သာစွာ ပြောကြားတယ်။ ဆီဇာရဲ့ အတ္တမာနတွေ လွန်ကဲပြီး အာဏာမက်တဲ့စိတ်ဓာတ်ကြောင့် ရောမရဲ့ ကောင်းကျိုးအတွက် ဆီဇာကို သတ်ခဲ့ရတာပါလို့ ရှင်းပြတယ်။ "မင်းအတွက် မင့်ကဏ္ဍကို ပြောရရင်တော့ ဒို့ရဲ့ နှလုံးသားတွေက မင်းကို ညီရင်းအစ်ကိုတမျှ ချစ်ခင်တဲ့ မေတ္တာဓါတ်နဲ့ လက်ခံ (ကြိုဆို)ပါတယ်။ ကြောက်ရွံ့ထိတ်လန့်နေတဲ့ လူထုကြီးရဲ့စိတ်တွေ တည်ငြိမ်အေးချမ်းသွားအောင် ဆောင်ရွက်ပြီးတဲ့အချိန်လေးထိ ခဏလောက် သည်းခံပါ။ အဲဒီနောက်မှာ. . ကျုပ်တို့က ခင်ဗျားကို ရှင်းပြပါမယ်။ သူ့ကို ဓါးနဲ့ထိုးနေတဲ့ အချိန်ထိ သူ့အပေါ် မေတ္တာမပျက် ချစ်ခင်နေတဲ့ ကျုပ်ဟာ ဘာကြောင့် ဒီလို လုပ်ခဲ့ရတယ်ဆိုတာ ရှင်းပြပါမယ်ဗျာ. . ."



'I loved Caesar, too,' Mark Antony replied slowly, 'but I will wait and hear what you have to say, and hope that we may still be friends when you have given me reasons why and in what way Caesar was dangerous.'

He asked, however, for permision to carry Caesar's body to the market place and to make a funeral speech to the Roman people. Brutus agreed to this, and he and his friends left Antony with the body.

Antony then knelt down beside the dead Caesar and spoke to him in bitter sorrow.

"ကျုပ်လည်း. . . ဆီဇာကိုချစ်ခင်တာပဲ" လို့ မက်အန်တော်နီက ခပ်လေးလေး၊ ဖြည်းဖြည်းချင်း ပြောချလိုက်တယ်။"ဒါပေမယ့်. . . ခင်ဗျားပြောစရာရှိတယ်ဆိုတာကို ကျွန်တော်စောင့်ပြီး နားထောင်ပါဦးမယ်. . .၊ ဆီဇာဟာ ဘာကြောင့်၊ ဘယ်ပုံဘယ်နည်း အန္တရာယ်ရှိတယ်ဆိုတဲ့ အကြောင်းရင်းတွေကို ခင်ဗျားရှင်းပြပြီးတဲ့အခါ ကျုပ်တို့တစ်တွေ မိတ်ဆွေအဖြစ် ဆက်လက်တည်ရှိနိုင်မယ်. . . မျှော်လင့်ပါတယ်"

ဒါပေမယ့်. . . သူက ဆီဇာရဲ့ ရုပ်ကလပ်ကို ဈေးကွက်နေရာထိ သယ်ဆောင်လာခွင့်၊ ရောမလူထုကို "အသုဘ မိန့်ခွန်း" စကားပြောကြားခွင့်ပြုပါလို့ ဗရူးတပ်ကို ခွင့်တောင်းတယ်၊ ဒီကိစ္စကို ဗရူးတပ်က သဘောတူတယ်. .၊ သူနဲ့သူ့မိတ်ဆွေက အန်တော်နီကို ဆီဇာရဲ့ ရုပ်အလောင်းနဲ့ ထားခဲ့ပြီး သူတို့တော့ ဈေးကွက်နေရာကို ထွက်ခွာသွားပါတယ်။

အဲဒီနောက် အန်တော်နီဟာ သေဆုံးခဲ့ပြီဖြစ်တဲ့ ဆီဇာရဲ့ ရုပ်အလောင်းဘေးမှာ ဒူးထောက်ပြီး နာကြည်းခါးသီးကြေကွဲစွာ ပြောလိုက်တယ်။



'O! pardon me, thou bleeding piece of earth, for being meek and gentle with these butchers,' he cried. 'Thou art the ruins of the noblest man that ever lived in the tide of times.' He went on to swear that he would revenge Caesar's murder and would have no pity for his enemies. Then, calling a servant to help him, he slowly carried the body to the market place.

Meanwhile, Brutus was already speaking to the frightened people. 'We will be satisified: let us hear Brutus speak!' they cried, and Brutus, calling 'Be patient till the last,' began to talk to them.

"ကျုပ်ကို ခွင့်လွှတ်ပါ၊ သွေးသံအလိမ်းလိမ်း ကပ်ငြိနေတဲ့. . . ဆီဇာ. . . ကျုပ်ကို ခွင့်လွှတ်ပါ၊ သင်သေဆုံးသွားရခြင်းဟာ ခေတ်အဆက်ဆက်မှာ ရှင်သန်နေထိုင်ခဲ့ဖူးသမျှ (လူသားအားလုံးအနက်)အမြင့်မြတ်ဆုံး လူသားတစ်ယောက်ကို ဆုံးရှုံးရခြင်းပါပဲ"

ပြီးတော့ ဆီဇာကို သတ်ဖြတ်မှုအတွက် ကလဲ့စားချေပါ့မယ်. . . သူ့ရဲ့ရန်သူတွေအပေါ်မှာ ဘယ်လို ကရုဏာတရားကိုမှ မထားဘူး. . . လို့ ဆက်လက်ပြောကြား သစ္စာပြု ကျိန်ဆိုတယ်။

အဲဒီနောက် သူ့ကိုကူညီဖို့ အစေအပါးတစ်ယောက်ကို ခေါ်ပြီး. . . ဆီဇာရဲ့ ရုပ်ကလာပ်ကို ဈေးကွက်နေရာသို့ ဖြည်းဖြည်းချင်း သယ်ဆောင်သွားပါတယ်။

အဲဒီအချိန်မှာ ဗရူးတပ်က ထိတ်လန့်ကြောက်ရွံ့နေတဲ့ လူထုကြီးကို မိန့်ခွန်းပြောနေပါပြီ။ လူတွေကလည်း "ဒို့တွေ စိတ်ကျေနပ်ပြီး ဘဝင်ကျသွားမှာပါ၊ ဗရူးတပ်ပြောတာကို နားထောင်ကြစို့. . ."လို့ အော်ဟစ်ပြောဆိုနေကြတယ်၊ ဗရူးတပ်က. . .

"ကျွန်တော် နောက်ဆုံးပြောဆိုပြီးတဲ့အထိ သည်းခံပြီး နားထောင်ကြပါ. . . "လို့ အော်ပြောရင်း သူတို့တွေကို စတင်ပြီး မိန့်ခွန်းပြောပါတယ်။



‘Romans and countrymen,’ he began, ‘you now may hear my explanation; and be silent that you may hear. If there be any dear friend of Caesar’s here, to him I say that Brutus’s love for Caesar was no less than his. If then that friend demand why Brutus rose against Caesar, this is my answer: not that I loved Caesar less, but that I loved Rome more. Would you rather have Caesar living, and die as slaves, or Caesar dead and live as free men?

"ရောမလူမျိုးများ၊ တိုင်းသူပြည်သားများ ခင်ဗျာ၊ အခုအချိန်ကစပြီး ကျွန်တော်ရဲ့ ရှင်းလင်းပြောကြားချက်တွေကို ခင်ဗျားတို့ ကြားကြရပါတော့မယ်. .၊ ခင်ဗျားတို့အားလုံး ကြားနိုင်အောင် တိတ်တိတ်ဆိတ်ဆိတ်လေး နေပေးပါခင်ဗျား. .။

အခု. . . ဒီနေရာမှာ ဆီဇာရဲ့ ရင်းနှီးတဲ့ မိတ်ဆွေတစ်စုံတစ်ယောက်များ ရှိနေတယ်ဆိုရင် သူ့ကို ကျွန်တော် ပြောချင်ပါတယ်၊ ဗရုးတပ်က ဆီဇာအပေါ်ထားတဲ့ မေတ္တာတရားဟာ သူ့ထက်မလျော့ပါဘူး. . . ဆိုတာပါပဲ။ ကဲ. . . ဒီလိုဆိုရင် အဲဒီသူငယ်ချင်းက "ဘာကြောင့် ဗရုးတပ်က ဆီဇာကို ဆန့်ကျင်ပုန်ကန်ရသလဲ. . . လို့ ကျွန်တော်ကို မေးမယ်ဆိုရင် ကျွန်တော်က ဒီလိုဖြေရပါမယ်။ ကျွန်တော်က ဆီဇာကို မချစ်လို့ မဟုတ်ပါဘူး. . .၊ ဒါပေမယ့် ရောမ (တိုင်းပြည်)ကို ပိုချစ်လို့ပါ. . . လို့ ဖြေရပါမယ်။ ခင်ဗျားတို့ကို ကျွန်တော်မေးမယ်. . . ဆီဇာတော့ ဆက်လက်အသက်ရှင်နေထိုင်ပြီး ခင်ဗျားတို့(တိုင်းသူပြည်သား) တွေကတော့ ကျေးကျွန်တွေအဖြစ်နဲ့ အသေခံမလား. . .၊ ဒါမှမဟုတ် ဆီဇာကို သေစေပြီးတော့ ခင်ဗျားတို့က လွတ်လပ်တဲ့ လူတွေအဖြစ်နဲ့ ဆက်လက်ရှင်သန်မလား. . . ?



'As Caesar loved me, I weep for him; as he was fortunate, I rejoice at it; as he was brave, I honour him; but as he was ambitious, I killed him. There is tears for his love; joy for his fortune; honour for his bravery; and death for his ambition. I will finish with these words: I killed my best friend for the good of Rome, but I have the same sword for myself when it shall please my country to need my death.'

"ဆီဇာက ကျွန်တော့်ကို ချစ်ခင်တဲ့သူဆိုတော့ သူ့အတွက် ကျွန်တော်ဟာ မျက်ရည်ဖြိုင်ဖြိုင် ကျခဲ့ရပါတယ်ဗျာ၊ သူဟာ ကုသိုလ်ကံကောင်းခဲ့တဲ့အတွက် ကျွန်တော်. . . သူ့အတွက် ကျေနပ်ဝမ်းသာ၊ မုဒိတာပွားခဲ့ရပါတယ်။ သူဟာ ရဲရင့်ပြောင်မြောက်တဲ့အတွက် ကျွန်တော်ဟာ သူ့အတွက် ဂုဏ်ယူခဲ့ရပါတယ်။ ဒါပေမယ့် သူဟာ လောဘရမ္မက် အာဏာမက်လာတော့ ကျွန်တော်သူ့ကို သတ်ခဲ့ရပါတယ်။ သူ့အပေါ်ထားတဲ့ မေတ္တာတရားအတွက် ကျဆင်းခဲ့ရတဲ့ မျက်ရည်တွေ၊ သူရဲ့ ကုသိုလ်ကံကောင်းမြတ်မှုအတွက် ကျေနပ်ဝမ်းသာ မုဒိတာတရားတွေ၊ သူရဲ့ ရဲရင့်သတ္တိပြောင်မှုအတွက် ချီးကျူးမှုတွေ၊ သူရဲ့လောဘ၊ အာဏာရမ္မက်အတွက် (ပေးအပ်လိုက်ရတဲ့) သေခြင်းတရားတွေ. . . ကျွန်တော်. . နိဂုံးချုပ်ပါတော့မယ်. . .၊ ကျွန်တော်ဟာ ကျွန်တော်ရဲ့ အချစ်ဆုံးသူငယ်ချင်းကို (တိုင်းပြည်) ရောမကောင်းကျိုး အတွက် ကျွန်တော်သတ်ခဲ့ရပါတယ်။ ဒါပေမယ့် ကျွန်တော့် အသက်ကို တိုင်းပြည်က လိုအပ်လာတယ်ဆိုရင်လည်း. . . (ဆီဇာကို သတ်ခဲ့တဲ့)ဒီဓါးနဲ့ပဲ ကျွန်တော် အသေခံပါ့မယ် ခင်ဗျာ. . ."



Brutus spoke with such honest sincerity that the people were moved to admiration. They may not have understood his high ideals, but they admired him as a man, and they cheered him from their hearts. 'Live, Brutus! Live!/ We'll take him to his house with shouts and praise!'

And then suddenly they were silent again, as they watched Mark Antony come slowly into the market place, carrying Caesar's bleeding body.

ဗရူးတပ်က ခုလို ရိုးသားစစ်မှန်မှုနဲ့ ပြောကြားတဲ့ အတွက် ဗရူးတပ်ကို သဘောကျကျေနပ်တဲ့စိတ်တွေ ပေါ် လာစေပါတယ်၊ ချီးကျူးလိုလားစိတ်တွေ ပေါ်လာပါတယ်၊ သူတို့တွေဟာ ဗရူးတပ်ရဲ့ မြင့်မား. . . မြင့်မြတ်တဲ့ စံနှုန်း တွေ၊ ရည်ရွယ်ချက်တွေကို နားလည်ချင်မှ နားလည်ပါလိမ့် မယ်၊ ဒါပေမယ့် သူတို့က သူ့ကို ပုဂ္ဂိုလ်ရေးအရ သဘောကျ နှစ်ခြိုက်တယ်၊ ဒါကြောင့်လည်း လူထုက သူတို့ရဲ့နှလုံးသား ထဲကနေ အူလှိုက်သည်းလှိုက် ကောင်းချီးကြွေးကြော် သြဘာပေးကြတယ်. . . ။

"ဗရူးတပ်. . . သက်တော်ရာကျော်ရှည်ပါစေ. . . ဒို့တစ်တွေ သူ့ကို အိမ်ပြန်ပို့မယ်၊ ချီးကျူးဂုဏ်ပြု ဟစ်ကြွေး ပြီးတော့ သူ့အိမ်ကို ပြန်ပို့ပေးကြမယ်"

အဲဒီနောက် ရုတ်တရက် ချက်ချင်းပဲ၊ သူတို့တွေ နောက်တစ်ခါထပ်ပြီး၊ တိတ်ဆိတ်ငြိမ်သက် သွားကြပြန် တယ်။ ဘာကြောင့်ဆို ဆီဇာရဲ့ ရုပ်ကလပ်ကို သယ်ဆောင် ပြီး မတ်အန်တော်နီက ဈေးကွက်ထဲသို့ ဖြည်းဖြည်းချင်း ဝင်လာတာကို တွေ့ရလို့ပါပဲ။



with Antony and listen to his funeral speech, and the people, touched by Antony's great sorrow for his dead friend, stood and listened quietly.

Mark Antony began slowly: 'Friends, Romans, countrymen, lend me your ears; I come to bury Caesar, not to praise him. The evil that men do lives after them, the good is often buried with their bones. So let it be with Caesar.' He paused and looked sorrowfully at the Roman people, and them went on:



ဗရှူးတပ်က လူထုကို ပြော
တယ်၊ အန်တော်နီနဲ့ ဆက်နေပြီး၊ သူ့ရဲ့ အသုဘမိန့်ခွန်းကို
နားထောင်ဖို့. . .။ သေဆုံးသွားတဲ့ သူငယ်ချင်းအတွက်
ဝမ်းနည်းပူဆွေးမှုကို မြင်ရလို့. . . စိတ်ထိခိုက်သွားတဲ့. . .
လူထုကြီးဟာ ငြိမ်ငြိမ်သက်သက်ရပ်တန့်ပြီး သူ့ပြောစကား
ကို နားထောင်ပါတယ်။

မတ်အန်တော်နီက ဖြည်းဖြည်းချင်း စတင်ပြောဆို
ပါတယ်။

"မိတ်ဆွေများ. . . ရောမလူမျိုးများ၊ တိုင်းသူပြည်
သားများ. . . ခင်ဗျာ။ ကျေးဇူးပြု၍ နားဆင်ကြပါခင်ဗျာ။
ကျွန်တော် ဒီကိုရောက်လာတာဟာဖြင့် ဆီဇာကို မြှုပ်နှံ
သင်္ဂြိုဟ်ဖို့အတွက်သာ ဖြစ်ပါတယ်၊ သူ့ကို ချီးကျူးထောပနာ
ပြုဖို့ ရောက်လာတာ မဟုတ်ပါဘူး။ လူတွေဟာ မကောင်း
တာလေးတွေ လုပ်မိတယ်ဆိုရင်. . .၊ သူတို့သေပြီးတဲ့အထိ
ပြောစမှတ်ပြု ကျန်ရစ်တတ်ကြပါတယ်။ အဲ. . . ကောင်း
တာလေးတွေဆိုရင်တော့. . . သူတို့ရဲ့ အရိုးစုနဲ့အတူ
မြှုပ်နှံပစ်လိုက်ကြတာပါပဲ။ (ဒါက လူတွေရဲ့သဘာဝဆိုတော့)
ဆီဇာနဲ့ပတ်သက်ပြီးတော့လည်း. . . ရှိပါစေတော့. . . "
သူကစကားကို ခေတ္တရပ်ပြီး ရောမလူထုကြီးကို ကြေကွဲစွာ
ကြည့်လိုက်ပါတယ်၊ ပြီးမှ စကားဆက်ပါတယ်။



Caesar was ambitious; if this is so, then it was a terrible fault and terribly has Caesar answered for it.

'I have come, with Brutus's permission, to speak at Caesar's funeral. Caesar was my friend, faithful and true to me: but Brutus says he was ambitious, and Brutus is and honourable man. Caesar was always kind and generous to the poor; he always felt great love and pity for them. Surely ambition should be made of harsher stuff'? But Brutus says he was ambitious, and Brutus is an honourable man.

"မြင့်မြတ်တဲ့
ဗရူးတပ်က ခင်ဗျားတို့ကို ပြောသွားပါတယ်။ ဆီဇာဟာ လောဘတွေတက်. . အာဏာမက်တယ်. . တဲ့။ အဲဒါသာ တကယ်ဆိုရင်တော့. . တကယ့်ကို ကြောက်စရာကောင်းတဲ့ ပြစ်မှုတစ်ခုပေပဲ. .၊ အဲ. . အဲဒီအတွက်လည်း ဆီဇာဟာ ကြောက်မက်ဖွယ်ကောင်းစွာ (ကြောက်ခမန်းလိလိ) ခံစားသွားခဲ့ရပြီးပါပြီ"

ကျွန်တော် ဒီကိုလာတာဟာ ဗရူးတပ်ရဲ့ ခွင့်ပြုချက်နဲ့ပါ၊ ဆီဇာရဲ့ အသုဘမှာ စကားလေး ပြောဆိုဖို့ပါ။ ဆီဇာဟာ ကျွန်တော့်သူငယ်ချင်းပါ. . . ကျွန်တော့်အပေါ်မှာတော့ သစ္စာရှိတယ်. . ဖြောင့်မှန်ပါတယ်၊ ဒါပေမယ့် ဗရူးတပ်က ပြောတော့၊ သူဟာ လောဘတွေတက်. . . အာဏာမက်တယ်. . . တဲ့။ အင်း. . . ဗရူးတပ်ကတော့ ဂုဏ်ပြုချီးကျူးထိုက်တဲ့သူ တစ်ယောက်ပေပဲလေ. . .၊ ဆီဇာဟာ ဆင်းရဲသားတွေအပေါ်မှာ အမြဲတမ်း ကြင်နာတယ်၊ ရက်ရောပြီး စေတနာကောင်းတယ်၊ သူတို့အတွက် မေတ္တာတရား၊ ကရုဏာတရား သိပ်ကို ကြီးမားပါတယ်၊ သေချာတာက. . . လောဘတက် အာဏာမက်တယ်ဆိုရင်. . . (ခုလို မေတ္တာ၊ ကရုဏာတွေမရှိဘဲ) သူ့စိတ်ဟာ ခက်ထန်ကြမ်းကြုတ်မှုတွေနဲ့ ဖွဲ့စည်းထားရမှာပေါ့. . .၊ ဒါပေမယ့် ဗရူးတပ်က ပြောတယ်၊ သူဟာ အာဏာတွေမက်. . . လောဘတက်တယ်. . . တဲ့။ ဗရူးတပ်ကတော့ ဂုဏ်သရေရှိ. . . သဘောထားမြင့်မြတ်သူတစ်ယောက်ဖြစ်ပါတယ်. . .။



Yesterday at the Games you all saw me offer him a kingly crown, which he three times refused. Was this ambition? Yet Brutus says he was ambitious, and Brutus is an honourable man.'

And now the Romans, moved by his words, began to turn against Brutus. 'There is truth in what Antony says,' they said to each other. 'Caesar has been greatly wronged. Remember, he would not take the crown; therefore it is certain he was not ambitious.'



မနေ့က. . . အားကစားပွဲမှာ. . . ခင်ဗျားတို့အားလုံး မြင်တွေ့ခဲ့ကြပြီး ဖြစ်ပါတယ်၊ ကျွန်တော်က သူ့ကို ဘုရင်အဖြစ် သရဖူကို အပ်နှင်းခဲ့တယ်၊ အဲဒါကို သူက သုံးကြိမ်တိတိ ငြင်းပယ်ခဲ့ပါတယ်. . .၊ အဲဒါ. . . အာဏာတွေမက်. . လောဘတက်တာလားဗျာ။ ဒါပေမယ့် ဗရူးတပ်က ပြောတော့ သူဟာ အာဏာတွေမက်လောဘတက်တယ်တဲ့။ အင်းလေ ဗရူးတပ်ကတော့ ဂုဏ်သရေရှိ သဘောထားမြင့်မြတ်သူတစ်ယောက် ဖြစ်ပါတယ်”

အခုအခါမှာ ရောမလူမျိုးတွေဟာ သူ့စကားတွေကြောင့် လှုပ်လှုပ်ရှားရှား ဖြစ်လာတယ်၊ ကြင်နာသနားတဲ့စိတ်တွေ ပေါ်လာတယ်. . .၊ ဗရူးတပ်အပေါ် ဆန့်ကျင်လိုစိတ်တွေ စတင်ပေါ်ပေါက်လာပါတယ်။ “အန်တော်နီ ပြောတာ မှန်တယ်ကွ”လို့ တစ်ယောက်ကိုတစ်ယောက်ပြောလာကြတယ်၊ ဆီဇာဟာ အကြီးအကျယ်ကို မတရားခံလိုက်ရတာပဲ. . .၊ သရဖူကို သူမယူခဲ့တာ. . . သတိရဦးမှာပေါ့. .၊ ဒါကြောင့်. . . သေချာတယ်ကွ၊ သူအာဏာမက်တာ လောဘတက်တာ မဟုတ်ဘူး. . . ”



Antony went on to say that he could stir their hearts to hatred and anger, but he pretended that he did not wish to do so, because I should wrong the honouragle men whose swords have killed Caesar.' The people, now wholly on his side, shouted 'Honourable men! They were wicked murderers.'

And Antony spoke again: If you have tears, prepare to shed them now. He showed them Caesar's cloak, torn by the swords of men whom he had thought were his friends.

အန်ထော်နီက ဆက်လက်ပြီး ပြောဆိုပါတယ်၊ ဒါ ကြောင့် သူတို့(လူထု)ရဲ့ စိတ်ကို မုန်းတီးမှုတွေ၊ ဒေါသတွေ ဖြစ်လာအောင် နှိုးဆွပေးနိုင်ခဲ့ပါတယ်။ ဒါပေမယ့် . . . သူကတော့ . . အဲဒီလို အမုန်းပွားပြီး ဒေါသထွက်တာကို မမုန်းစေလို၊ ဒေါသမထွက်စေလိုတဲ့ ဟန်ဆောင်တယ်။

"ဘာကြောင့်ဆို သူတို့ရဲ့ ဓါးတွေနဲ့ ဆီဇာကို သတ်ခဲ့တဲ့ . . . ၊ဂုဏ်သရေရှိ မြင့်မြတ်သူတွေကို နစ်နာသွားမှာ အထင်မြင်လွဲသွားမှာ စိုးလို့ပါ. . ."

ခုအခါမှာ လုံးဝ. . . သူ့ဘက်ကို ရောက်လာပြီဖြစ်တဲ့ လူထုကြီးတစ်ရပ်လုံးက အော်ဟစ်ကြတယ်. . . "ဘာ. . ဂုဏ်သရေရှိ သဘောထားမြင့်မြတ်သူတွေလဲ၊ သူတို့ဟာ ကောက်ကျစ်စဉ်းလဲတဲ့ လူသတ်သမားတွေ. . ."

အန်ထော်နီက ဆက်ပြီးပြောကြားပါတယ်၊ "ခင်ဗျားတို့မှာ မျက်ရည်ကလေးတွေ ရှိတယ်ဆိုရင် ရင်နင့်ငိုကြွေးဖို့ရာ ပြင်ကြပေရော့. . . ဗျာ" (လို့ဆိုပြီး) သူက ဆီဇာ ဝတ်ဆင်ခဲ့တဲ့ ဝတ်ရုံကြီးကို ပြလိုက်တယ်. . .။ သူကတော့ မိတ်ဆွေတွေ၊ သူငယ်ချင်းတွေလို ထင်ခဲ့တဲ့ လူတွေရဲ့ ဓါးချက်တွေကြောင့် စုတ်ပြဲနေတဲ့ ဝတ်ရုံကြီးပေါ့. . .။



'See what a rent the envious Casca made!' cried Antony. 'And here the well-beloved Brutus struck. This was the unkindest cut of all. You know how dearly Caesar loved him, and when he found that Brutus was unfaithful, his great heart broke.'

The people cried: 'O noble Caesar! O most bloody sight! We will be revenged.'

Shouting for revenge they rushed out of the market place in search of Caesar's murderers, and Mark Antony was well satisfied. The first part of his plan had worked.

ကြည့်ကြပါဦးဗျာ. . . ဒီအပြက မနာလိုဝန်တိုတဲ့ ကက်စကာရဲ့ ဓါးနဲ့ထိုးလို့ စုတ်ပြဲသွားတဲ့ နေရာပေါ့. . . ”လို့ အန်ထော်နီက အော်ပြောလိုက်တယ်၊ “ဒီဟာကတော့. . . သူ အင်မတန်ချစ်ခင်မြတ်နိုးတဲ့ ဗရူးတပ်ရဲ့ ဓါးချက်ပေါ့။ ဒီဓါးချက်ဟာ ဓါးချက်တွေအားလုံးအနက် အရက်စက်ဆုံး၊ အကြင်နာကင်းမဲ့ဆုံး ဓါးချက်ပေပေါ့ဗျာ. . .၊ ခင်ဗျားတို့ အားလုံး သိကြပါတယ်၊ ဆီဇာဟာ ဗရူးတပ်အပေါ် ဘယ်လောက်ထိ ကြင်ကြင်နာနာ ချစ်တယ်ဆိုတာ. . .၊ ဗရူးတပ်ဟာ သူ့အပေါ် သစ္စာမရှိပါလား. . . လို့ သူသိသွား၊ တွေ့သွားတဲ့အခါ. . .၊ သူရဲ့ မဟာနှလုံးသားဟာ ကွဲကြေခဲ့ရပါတယ်. . . ဗျာ”

လူထုကြီးက ငိုကြွေးအော်ဟစ်ကြတယ်. .၊ “အို. . မြင့်မြတ်တဲ့ ဆီဇာ. . .၊ အရက်စက်ဆုံး ရန်လိုသတ်ဖြတ်ခဲ့တဲ့ ဖြစ်ရပ်ပဲ. . .၊ ကလဲ့စားချေရမယ်ဟေ့. . . ”

ကလဲ့စားချေဖို့အတွက် အော်ဟစ်ရင်းနဲ့၊ ဆီဇာကို သတ်ခဲ့တဲ့ လူသတ်သမားတွေကို ရှာဖွေဖို့၊ သူတို့တွေဟာ ဈေးကွက်ထဲကနေ အလျင်အမြန် ထွက်ခွာသွားပါတယ်။ သူ့အစီအစဉ်ရဲ့ ပထမပိုင်းက အောင်မြင်သွားပြီဖြစ်ပါတယ်။



As he was preparing to return home, a servant came to him with good news. Brutus and his friends had hastily left the city, fearing the anger of the people; and Octavius Caesar, a General who was faithful to Caesar, had arrived in Rome with an army at his command. Antony went at once to meet him, to make plans for battle.

Brutus and Cassius left Italy for Greece. About a year later, they were camped with their army at Sardis, and Antony and Octavius, with their army, were near the town of Philippi, some miles away.

During that year, Brutus had become an unhappy, bitter man. It seemed to him that only he, out of all his Party, had killed Caesar for a truly patriotic reason.

အိမ်ပြန်မယ်ဆိုပြီး သူပြင်ဆင်နေတုန်း၊ အစေခံတစ်ယောက်က သတင်းကောင်းတွေနဲ့အတူ သူ့ဆီကို ရောက်ရှိလာပါတယ်။ ဗရူးတပ်နဲ့ သူ့မိတ်ဆွေတွေဟာ လူထုရဲ့ ဒေါသကို ကြောက်လို့ မြို့ထဲက ကသုတ်ကရက် ထွက်ခွာသွားကြကြောင်း၊ ဩတေးဗီးယပ်ဆီဇာဆိုတဲ့ ဆီဇာအပေါ် သစ္စာရှိတဲ့ ဗိုလ်ချုပ်ကြီးတစ်ယောက်ဟာ သူရဲ့ စစ်တပ်ကြီးနဲ့အတူ ရောမမြို့ကို ရောက်ရှိလာကြောင်း. .။ အန်ထော်နီက သူ့ဆီကို ချက်ချင်းပဲ သွားရောက်တွေ့ဆုံပါတယ်၊ စစ်ပွဲအတွက် အစီအစဉ်တွေ ပြုလုပ်ဖို့ပေါ့။

ဗရူးတပ်နဲ့ ကက်စီးယပ်တို့ဟာ အီတလီကနေ ထွက်ခွာပြီး ဂရိပြည်ကို သွားကြတယ်၊ တစ်နှစ်လောက်. . . ကြာတော့၊ သူတို့က သူတို့ရဲ့ စစ်တပ်ကြီးနဲ့အတူ ဆာဒစ်အရပ်မှာ စခန်းချနေကြတယ်။ အန်ထော်နီနဲ့ ဩတေးဗီးယပ်တို့က ဖိလစ်ပီနိုမြို့နားမှာ စခန်းချတယ်။ ဆာဒစ်နဲ့ မိုင်အနည်းငယ်ပဲ ဝေးတဲ့ နေရာမှာပေါ့။

အဲဒီနှစ်အတွင်းမှာ ဗရူးတပ်ဟာ စိတ်မချမ်းမြေ့နာကြည်းတဲ့ လူတစ်ယောက်ဖြစ်ခဲ့ရတယ်။ သူထင်မြင်(သိရှိ)လာတာက၊ သူတို့အဖွဲ့ထဲမှာ သူတစ်ယောက်တည်းသာလျှင် တကယ့်စစ်မှန်တဲ့ မျိုးချစ်စိတ်နဲ့ ဆီဇာကို သတ်ခဲ့သူဖြစ်တယ်၊



All the others, even his brother-in-law, Cassius, were now arguing among themselves for honours, accepting bribes, and trying to gain important posts in the new Government. At Sardis that night Brutus received news that his loved wife was dead, and sorrow was added to his bitterness. He and Cassius had a quarrel: Cassius was already jealous of Brutus's leadership, as Brutus was a younger man.

In the end, however, they forgot their quarrel and began to discuss plans for the battle. They did not agree even over this Brutus wanted to march to Philippi and attack Mark Antony there, but Cassius was against it.

အခြားလူအားလုံး. . . သူ့ယောက်ဖတော်သူ ကက်စီးယပ်တောင်မှ၊ သူတို့အချင်းချင်းတွေကြားမှာ အငြင်းပွားနေကြပြီ၊ ဂုဏ်ထူးဘွဲ့ထူးတွေ၊ တံစိုးလက်ဆောင်တွေ၊ လာဘ်သပ်ပကာတွေလက်ခံဖို့. . .၊ နောင်ဖွဲ့စည်းမယ့် အစိုးရအသစ်မှာ အရေးပါအရာရောက်တဲ့ ရာထူးတွေရဖို့. . .၊ ဆာဒစ်မှာ စခန်းချနေတဲ့ အဲဒီညမှာ သူ့ရဲ့ချစ်လှစွာသော ဇနီးသည် သေဆုံးသွားပြီဆိုတဲ့ သတင်းကို ဗရူးတပ် ရရှိပါတယ်။ သောကတရားက သူ့ရဲ့နာကြည်းမှုကို ထပ်လောင်းပေါင်းစပ်ပေးခဲ့ပါတယ်။ သူနဲ့ ကက်စီးယပ်လည်း ပဋိပက္ခဖြစ်ခဲ့ကြတယ်၊ ကက်စီးယပ်က ဗရူးတပ်ရဲ့ ခေါင်းဆောင်မှုကို မနာလိုဝန်တိုဖြစ်နေပြီလေ. . .၊ ဗရူးတပ်က သူ့ထက်အသက်ငယ်တယ်ဆိုပြီးတော့ပေါ့. . .။

ဒါပေမယ့် နောက်ဆုံးကျတော့လည်း သူတို့ရဲ့ ပဋိပက္ခကို မေ့ပစ်လိုက်ကြပြီး၊ တိုက်ပွဲအတွက် အစီအစဉ်ရေးဆွဲဖို့ စတင်ဆွေးနွေးကြတယ်၊ အဲဒီ တိုက်ပွဲအစီအစဉ်ပေါ်မှာတော့ သူတို့ သဘောမတူကြပါဘူး၊ ဗရူးတပ်က ဖိလစ်ပီကို ချီတက်သွားပြီးတော့၊ အဲဒီနေရာမှာပဲ အန်ထော်နီကို တိုက်ခိုက်ချင်တယ်၊ ကက်စီးယပ်က (ဒီအစီအစဉ်ကို) ဆန့်ကျင်တယ်။



come to us,' he argued. 'In this way he will waste his strength and tire his soldiers, while we stay here, rested and in a good defensive position.

But Brutus pointed out to him that the people living in the country between Philippi and Sardis were sympathetic towards Antony, and many of them would join his army as it marched through their villages. He argued that their own power was at its height, and that they must strike before the enemy became any stronger.

'There is a tide in the affairs of men which, taken at its flood, leads on to fortune,' Brutus said.

"ရန်သူက ကျုပ်တို့ဆီလာပြီးတိုက်ရင် ပိုကောင်းတာပေါ့"လို့ ကက်စီးယပ်က ဆင်ခြေဆင်လက်ပြပြီး. . . ပြောဆိုတယ်၊ "ရန်သူက လာ. . . တိုက်ရင် သူ့အင်အားကို ဖြုန်းတီးစေလိမ့်မယ်၊ သူ့စစ်သားတွေကိုမောပန်းအားကုန်စေမယ်. . .၊ ကျုပ်တို့တွေကတော့ ဒီမှာနေရင်းနဲ့ အနားရမယ်၊ ခံစစ်အနေအထားကောင်းကိုလည်း ရမယ်။"

ဒါပေမယ့် ဗရူးတပ်က သူ့ကို ထောက်ပြတယ်၊ ဖိလစ်ပီနဲ့ ဆာဒစ်ကြားမှာ နေထိုင်နေတဲ့ လူထုက အန်ထော်နီကို လိုလားတယ်၊ အန်ထော်နီက သူတို့ရွာတွေကို ဖြတ်သန်းချီတက်လာမယ်ဆိုရင် လူအမြောက်အမြားက သူ့စစ်တပ်နဲ့ ပူးပေါင်းသွားလိမ့်မယ်. . . လို့. . .၊ သူက ကျိုးကြောင်းသင့် ပြောပြတယ်။ သူတို့ရဲ့ အင်အားကလည်း အကောင်းဆုံး အနေအထားမှာ ရှိနေတယ်။ ဒါကြောင့် ရန်သူအင်အားကြီးထွားမလာခင်မှာ သူတို့က စတင်တိုက်ခိုက်ရမယ်. . . လို့ အကျိုးအကြောင်းပြ ဆင်ခြင်ပြောဆိုတယ်။

"လူ့လောကရဲ့ အမှုကိစ္စမှာ. . . ဒီရေလိုပဲ. . . အတက်အကျရှိတယ်၊ ဒီရေတက်ချိန်(အခွင့်ကောင်းကြုံချိန်)မှာ လုပ်ဆောင်လိုက်ရင် ကံကောင်းကြုံ အောင်မြင်တတ်ပါတယ်"လို့ ဗရူးတပ်က ဆိုတယ်။

နောက်ဆုံးကြတော့. . . ကက်စီးယပ်ဟာ စိတ်မပါ



At last Cassius unwillingly agreed with Brutus, and they marched to Philippi, to the delight of Octavius and Mark Antony, who now had the advantage of a good defence position. The field of battle at Philippi was very confused, partly because both armies wore the same uniform and it was difficult to distinguish friend from enemy; and partly because there was jealousy and ill-will in Brutus's camp instead of agreement and understanding.

Casius admitted to one of their army leaders that he had agreed to come to Philippi against his better judgment: he had great fears that they might lose this battle fought on the Plaino of Philippi. Their army was tired out with the long march from Sardis; but Antony's men were fresh and rested and had already chosen the best defence positions on the Plain.

လက်မပါဘဲ ဗရူးတပ်နဲ့ သဘောတူလိုက်ရပါတယ်၊ သူတို့တွေ ဖိလစ်ပီကို ချီတက်သွားကြတယ်။ ဩတေးဗီးယပ်နဲ့ သူတို့အတွက် ခံစစ်အနေအထား ကောင်းကောင်းကို ရရှိသွားပြီလေ. . .၊ ဖိလစ်ပီ စစ်မြေပြင်ရဲ့ အခြေအနေကတော်တော်ကို ရှုပ်ထွေးပါတယ်၊ (အကြောင်းရင်း) တစ်ခုက စစ်တပ်ကြီးနှစ်ခုလုံးဟာ တူညီတဲ့ စစ်ဝတ်စုံတွေကို ဝတ်ဆင်ထားတာဆိုတော့. . .၊ မိတ်ဆွေနဲ့ ရန်သူကို ခွဲခြားဖို့ခက်တဲ့အချက်ဖြစ်တယ်. . .၊ နောင်တစ်ကြောင်းကလည်း ဗရူးတပ်တို့ စစ်စခန်းမှာက သဘောတူညီမှုတွေ၊ နားလည်မှုတွေရှိနေရမယ့်အစား မနာလိုမှုတွေ၊ မုန်းတီးမှုတွေ ရှိနေတယ်လေ။

ကက်စီးယပ်က သူတို့စစ်ခေါင်းဆောင်တွေထဲက တစ်ယောက်ကို ဝန်ခံပြောဆိုတယ်။ သူရဲ့ ပိုမိုကောင်းမွန်တဲ့ ဆုံးဖြတ်ချက်ကို ဆန့်ကျင်ပြီး ဖိလစ်ပီကို လိုက်လာခဲ့ရတာ. . . ဖိလစ်ပီစစ်မြေပြင်မှာ တိုက်ကြမယ့် ဒီစစ်ပွဲမှာ သူတို့ရှုံးကောင်းရှုံးသွားနိုင်တယ်ဆိုတဲ့ စိုးရိမ်မှုတွေ အကြီးအကျယ်ရှိကြောင်း. . .၊ သူတို့ရဲ့ စစ်တပ်ကြီးဟာ ဆာဒစ်ကနေ ချီတက်ခဲ့ရတဲ့အတွက် စစ်ပန်းနေကြပြီ. . .၊ ဒါပေမယ့် အန်ထော်နီရဲ့ လူတွေကတော့ လန်းဆန်းပြီး၊ အနားရနေကြတယ်၊ ပြီးတော့ သူတို့က အကောင်းဆုံး ခံစစ်အနေအထားကို ရွေးချယ်ရယူထားပြီးပြီ. . .၊



Later, Cassius said the same thing to Brutus, adding: 'If we lose this battle, will you be content to be led, a prisoner, through the streets of Rome?'

Brutus swore that he would rather take his own life than allow such a thing to happen, and the two men parted, each to lead his own half of the army into battle, with their minds filled with dark thoughts of death and defeat.



နောက်ပိုင်းကျ

တော့ အဲဒီအကြောင်းတွေကို ကက်စီးယပ်က ဗရူးတပ်ကို ပြောပြတယ်၊ ထပ်ပြီးတော့ ပြောလိုက်သေးတယ်၊ "တကယ်လို့များ ဒီစစ်ပွဲမှာ ကျုပ်တို့ရှုံးရင် ခင်ဗျားအနေနဲ့ အကျဉ်းသားအဖြစ် အဖမ်းခံရပြီး၊ ရောမမြို့ရဲ့ လမ်းတွေပေါ်မှာ ဆွဲခေါ်ပြသခံရမှာကို ခင်ဗျား. . . သဘောကျသလား?"

"အဲဒီလိုအဖြစ်မျိုး အဖြစ်ခံတာထက်၊ ကိုယ့်ကိုယ်ကို သတ်သေပစ်လိုက်မယ်" လို့ ဗရူးတပ်က ကျိန်ဆိုပြောကြားတယ်၊ ပြီးတော့ သူတို့နှစ်ယောက် ခွဲခွာခဲ့ကြတယ်၊ သူတို့. . စစ်တပ်ကြီးရဲ့ တစ်ဝက်တစ်ပိုင်းဆီကို ဦးဆောင်ပြီး၊ တိုက်ပွဲဝင်ဖို့ ထွက်ခွာခဲ့ကြတာ. .၊ သူတို့ရဲ့ စိတ်အစဉ်မှာတော့ နိမိတ်မကောင်းတဲ့. . . သေခြင်းနဲ့ ရှုံးနိမ့်ခြင်းဆိုတဲ့ အတွေးတွေနဲ့ ပြည့်လျှမ်းနေပါတယ်။

တစ်နေ့ကုန်အောင် တိုက်ပွဲကြီး ဖြစ်ပွားပါတယ်၊



The fighting went on all day, but by midday it already seemed certain that Mark Antony's was the winning side. A messenger brought news to Cassius that the enemy was in his camp, and he, mistaking Brutus's own men for Antony's, thought the battle was lost. In despair he killed himself with his own sword.

Brutus, arriving on the scene a short time later, found his brother-in-law dead, and he cried out bitterly: 'O Julius Caesar, thou art mighty yet! The spirit walks abroad, and turns our swords against ourselves.'



ဒါပေမယ့် နေ့လည်ဘက်လောက်ရောက်လာတော့. . . မတ်အန်ထော်နီတို့ဘက်က စစ်နိုင်တော့မယ်ဆိုတော့ သေချာသလောက် ဖြစ်လာတယ်၊ သတင်းပို့သူ ဆက်သားတစ်ယောက်က ကက်စီးယပ်ထံ သတင်းပို့တယ်၊ ရန်သူတွေဟာ သူ့စခန်းထဲကို ရောက်လာပြီ. . လို့။ ကက်စီးယပ်ကလည်း ဗရူးတပ်ရဲ့လူတွေကို အန်ထော်နီရဲ့လူတွေလို့ အထင်မှားတယ်၊ စစ်ပွဲတော့ ရှုံးပြီလို့ထင်ပြီး. . .၊ စိတ်ပျက်လက်ပျက်ဖြစ်၊ စိတ်ဓါတ်ကျပြီး သူ့ကိုယ်တိုင်ကိုင်စွဲတဲ့ သူ့ဓါးနဲ့ သူ့ကိုယ်သူ သတ်သေလိုက်ပါတယ်. . .။

ခဏလေးကြာတော့ ဗရူးတပ်ကိုယ်တိုင် အဲဒီနေရာကို ရောက်လာတယ်၊ သူ့ရဲ့ ယောက်ဖတော် ကက်စီးယပ်သေပြီဆိုတာကိုတွေ့တော့၊ ယူကြုံးမရစွာနဲ့ အော်ပြောလိုက်ပါတယ် “အို. . . ဂျူးလီယက်ဆီဇာ. . သင်ဟာ တန်ခိုးအရှိန်အဝါကြီးပါပေတယ်၊ သင့်ရဲ့ ဝိဉာဉ်ဟာ နိုင်ငံရပ်ခြားကိုတောင် လိုက်လာပြီး ကျုပ်တို့ရဲ့ ဓါးတွေကို ကျုပ်တို့ဘက်သို့ လှည့်ပေးနိုင်ပါပေတယ်”



He felt hopeless, thinking that all was lost, but he bravely led the remainder of his army once more against the enemy. Before long he was defeated and, although he and a few friends managed to escape, most of his army was taken prisoner.

Mark Antony told his soldiers to treat the prisoners with every kindness. 'I had rather have such men my friends than enemies,' he said. He then gave orders that Brutus must be found and brought to Octavius's tent.



သူ့အနေနဲ့ မျှော်လင့်ချက် ကင်းမဲ့မှုတွေကို ခံစားရတယ်၊ အရာရာဟာ ဆုံးရှုံးပြီလို့ ထင်မိတယ်၊ ဒါပေမယ့်. . . ကျန်နေသေးတဲ့ သူ့ရဲ့စစ်တပ်ကြီးကို ရဲရဲရင့်ရင့် ဦးဆောင်တယ်. . ။နောက်တစ်ကြိမ်ထပ်ပြီး ရန်သူနဲ့ ယှဉ်ပြိုင်တိုက်ခိုက်တယ်။ (ဒါပေမယ့်) မကြာခင်မှာ သူတို့ ရှုံးနိမ့်သွားကြပါတယ်။ သူနဲ့ သူ့မိတ်ဆွေအချို့က ထွက်ပြေးလွတ်မြောက်နိုင်ခဲ့ပေမယ့် သူ့ရဲ့ စစ်သားအများစုကတော့ အကျဉ်းသားစစ်သုံ့ပန်းတွေအဖြစ် အဖမ်းခံရပါတယ်။

မတ်အန်ထော်နီက သူ့စစ်သားတွေကို အမိန့်ပေးတယ်၊ ဖမ်းမိထားတဲ့ စစ်သုံ့ပန်းအကျဉ်းသားတွေကို ကြင်ကြင်နာနာ ဆက်ဆံဖို့. . ၊"ဒီလိုလူမျိုးတွေကို ရန်သူဆိုတဲ့ အနေအထားထက် မိတ်ဆွေအဖြစ် ပိုပြီးလိုလားပါတယ်လို့" ဆိုတယ်။ ပြီးတော့ သူက ဗရူးတပ်ကို ရအောင်ရှာပြီး ဩတေးဗီးယပ်ရဲ့ တဲစခန်းကို ခေါ်လာခဲ့ဖို့. . (သူ့စစ်သားတွေကို) အမိန့်ပေးတယ်။



But when Brutus at last was found he also was dead, killed by his own hand and with his own sword, like Cassius. All his hopes for the glory of Rome, all his honest efforts for the good of the Roman people, seemed to him to have failed miser ably, and he felt he had nothing more to live for.

Mark Antony, kneeling beside Brutus's body, felt a great unhappiness for the wasted life of this fine and honourable man.



ဒါပေမယ့် . . . နောက်ဆုံးမှာ ဗရူးတပ်ကို တွေ့တော့၊ သူလည်း သေဆုံးခဲ့ပါပြီ၊ ကက်စီးယပ် လိုပါပဲ။ သူ့ဓါးကိုယူ . . . သူ့လက်ကို အသုံးပြုပြီး . . . သူ့ကိုယ်သူ သတ်သေခဲ့တာပါ . . .။ ရောမရဲ့ဂုဏ်ကျက်သရေအတွက် သူ့ရဲ့မျှော်လင့်ချက်တွေ၊ ရောမလူထုအတွက် သူ့ရဲ့ရိုးဖြောင့်တဲ့ ကြိုးစားမှုတွေ အားလုံး . . . ဟာ စိတ်မချမ်းမြေ့ဖွယ် ကောင်းလောက်အောင် ပျက်သုဉ်းခဲ့ပြီလို့ သူထင်မြင်မိတယ်။ ဆက်လက်ပြီး အသက်ရှင်နေထိုင်ဖို့ မကောင်းတော့ . . . ဘူးလို့ သူခံစားမိခဲ့လို့(သတ်သေခဲ့တာ) ဖြစ်ပါတယ် . . .။

မတ်အန်ထော်နီဟာ ဗရူးတပ်ရဲ့ ရုပ်ကလပ်အနားမှာ ဒူးထောက်ရင်း အချည်းနှီး သေဆုံးခဲ့ရတဲ့၊ အင်မတန်ကောင်းမြတ်တဲ့ . . . ဂုဏ်ပြုချီးကျူးဖွယ် . . .၊ သဘောထားမြင့်မြတ်တဲ့ . . . ဒီပုဂ္ဂိုလ်ကြီးအတွက် အလွန်အမင်း စိတ်မချမ်းမသာဖြစ် . . . ခံစားရပါတယ်။



'This was the noblest Roman of them all,' he said. 'All the others did what they did in envy of great Caesar; Brutus was the only one with honest thoughts for the good of the people.'

He stood up and told his soldiers to carry Brutus's body into the camp for honourable burial. 'We must treat him according to his virtue,' he finished, and say to all the world: "This was a man, a brave and honourable man."



 မြင့်

မြတ်ဆုံး ပုဂ္ဂိုလ်ဖြစ်တယ်၊ အခြားလူတွေက ကြီးမြတ်တဲ့ ဆီဇာအပေါ်မှာ မနာလိုဝန်တိုမှုတွေနဲ့ သတ်ခဲ့ကြတာ. . .၊ ဗရူးတပ်တစ်ယောက်တည်းပဲ တိုင်းပြည်နဲ့လူမျိုးရဲ့ ကောင်းကျိုးအတွက်ဆိုတဲ့. . . ရိုးသားတဲ့ အတွေးအခေါ်နဲ့ သတ်ခဲ့တာ. . . ”

(ဒူးထောက်နေရာကနေ) မတ်တပ်ထရပ်လိုက်ပြီး၊ ဗရူးတပ်ရဲ့ ရုပ်အလောင်းကို စခန်းသို့ သယ်ယူလာဖို့. . .၊ သူ့ရဲ့ ဂုဏ်သိက္ခာနဲ့အညီ ဂုဏ်ပြုသင်္ဂြိုဟ်ဖို့. . . သူ့စစ်သားတွေကို အမိန့်ပေးတယ်၊ “ဒီ့တစ်တွေဟာ သူ့ကို သူ့ရဲ့ သူရသတ္တိ၊ ကောင်းမြတ်တဲ့ အကျင့်သီလနဲ့အညီ (ထိုက်တန်ကိုက်ညီအောင်) ပြုမူဆက်ဆံရပေလိမ့်မယ်”လို့ အဆုံးသတ်လိုက်ပါတယ်။ ပြီးတော့ တစ်လောကလုံးကို သူက ကြွေးကြော်လိုက်တယ်။ **“ဤသူသည်ကား ရဲရင့်၍ ဂုဏ်ပြုချီးကျူးထိုက်သော သဘောထားမြင့်မြတ်သူ တစ်ယောက်ပေတကား. . . ”**

***မောင်သိန်းလွင်***

# KING LEAR

## PEOPLE IN THE STORY

KING LEAR
GONERIL, REGAN, CORDELIA — his daughters
DUKE OF ALBANY, Goneril's husband
DUKE OF CORNWALL, Regan's husband
KING OF FRANCE
DUKE OF BURGUNDY
EARL OF KENT
EARL OF GLOUCESTER
EDGAR, EDMUND — Gloucester's sons

ONCE, many hundred years ago, there was a king of England called Lear. He had ruled his land well and wisely for many years, but now he was growing old and feeble and he felt that it was time for the kingdom to pass into younger hands. So he decided to give up his title, and spend the rest of his life in quientness and peace.

# လီယာဘုရင်ကြီး

ဇာတ်ကောင်များ (ပုံပြင်တွင် ပါဝင်သူများ)

လီယာဘုရင်ကြီး

| | |
|---|---|
| ဂွန်နရယ်<br>ရီဂန်<br>ကော်ဒယ်လီယာ | ဘုရင်ကြီး၏<br>သမီးတော်များ |
| အယ်လ်ဘန်မြို့စား<br>ကွန်းဝေါ့မြို့စား | ဂွန်နရယ်၏ခင်ပွန်း<br>ရီဂန်၏ခင်ပွန်း |
| ပြင်သစ်ဘုရင်<br>ဘာဂန်မြို့စား | ကော်ဒယ်လီယာအား<br>လက်ထပ်လိုသူများ |

ကန့်အမတ်ကြီး

ဂလောက်ဆက်စတာအမတ်ကြီး

| | |
|---|---|
| အက်ဒ်ဂါ<br>အက်ဒ်မန် | ဂလောက်ဆက်စတာ၏<br>သားများ |

ဟိုး. . . တစ်ခါက. . . ၊ နှစ်ပေါင်းရာပေါင်းများစွာ ကြာပြီဖြစ်တဲ့. . တစ်ခါကပေါ့။ အင်္ဂလန်ပြည်မှာ လီယာလို့ ခေါ်တွင်တဲ့ ဘုရင်ကြီးတစ်ပါး အုပ်စိုးခဲ့တယ်၊ သူဟာ သူ့တိုင်းပြည်ကို ကောင်းကောင်းမွန်မွန် အမြော်အမြင်ရှိရှိ အုပ်ချုပ်ခဲ့တာ နှစ်ပေါင်းများစွာ ကြာခဲ့ပါပြီ။ ဒါပေမယ့်. . . အခုအခါမှာတော့ သူဟာ အိုမင်းမစွမ်းဖြစ်လာတဲ့အတွက်



Lear had no son to succeed him, but he had three daughters, Goneril, Regan and Cordelia, and his plan was to divide the kingdom among them. Goneril and Regan were already married, Goneril to the Duke of Albany, and Regan to the Duke of Comwall; and there were two visitors to Lear's court-the King of France and the Duke of Burgundy-Both of whom were anxious to marry Lear's youngest daughter, Cordelia. The old king thought that his daughters, with good husbands to help and advise them would be able to rule England as well and wisely as he had done.

တိုင်းပြည်အုပ်ချုပ် မင်းလုပ်ဖို့အရေးကို ငယ်ရွယ်သူတို့လက်သို့ လွှဲအပ်ဖို့ အချိန်တန်ပြီလို့ သူ့စိတ်ထဲမှာ ခံစားလာမိတယ်။ ဒါကြောင့် ဘုရင်ဆိုတဲ့ (သရဖူ)ဘွဲ့ထူးကို စွန့်လွှတ်ပြီး သူ့ဘဝရဲ့ ကျန်ရှိသမျှ အချိန်ပိုင်းကို အေးအေးဆေးဆေး ငြိမ်းငြိမ်းချမ်းချမ်း နေတော့မယ်လို့ ဆုံးဖြတ်ခဲ့ပါတယ်။

လီယာဘုရင်ကြီးမှာ ထီးမွေနန်းမွေဆက်ခံဖို့ သားယောက်ျား မရှိဘူး၊ ဒါပေမယ့် ဂွန်နရယ်၊ ရီဂန်နဲ့ ကော်ဒယ်လီယာလို့ခေါ်တဲ့ သမီးသုံးယောက်တော့ ရှိပါတယ်၊ သူ့အစီအစဉ်က တိုင်းပြည်ကို (သုံးပိုင်း)ခွဲခြမ်းပြီး သူတို့သုံးယောက်ကို အုပ်ချုပ်စေဖို့ပါပဲ။ ဂွန်နရယ်နဲ့ ရီဂန်က အိမ်ထောင်ကျပြီးကြပြီ။ ဂွန်နရယ်က အယ်လ်ဘန်မြို့စားနဲ့. . .၊ ရီဂန်က ကွန်းဝေါမြို့စားနဲ့. . .၊ လီယာဘုရင်ကြီးရဲ့ နန်းတော်ကို လာရောက်လည်ပတ်နေတဲ့ ဧည့်သည်တော်နှစ်ဦးလည်း ရှိပါတယ်၊ ပြင်သစ်ဘုရင်မင်းမြတ်နဲ့ ဘာဂန်ဒီမြို့စားကြီးတို့ ဖြစ်ပါတယ်။ သူတို့နှစ်ဦးလုံးက လီယာဘုရင်ကြီးရဲ့ သမီးအငယ်ဆုံး ကော်ဒယ်လီယာကို လက်ထပ်လိုစိတ် ပြင်းပြကြသူများ ဖြစ်ပါတယ်။ သူ့သမီးတွေက လင်ကောင်းသားကောင်းတွေရဲ့ ကူညီစောင်မမှု၊ အကြံကောင်းဉာဏ်ကောင်းပေးမှုတွေနဲ့. . .၊ အင်္ဂလန်ပြည်ကြီးကို သူ့အုပ်ချုပ်ခဲ့သလို ကောင်းကောင်းမွန်မွန်၊ အမြော်အမြင်ရှိရှိ အုပ်ချုပ်နိုင်လိမ့်မယ်. . . လို့ ဘုရင်ကြီးက ထင်မိတယ်။




Lear had already decided which share of his kingdom was to go to each daughter, but before telling them of his decision he sent for them and asked each in turn whether she truly loved him. Goneril, the eldest, answered him first. ‘Sir,’ she said, ‘I love you more than words can say. You are dearer to me than eyesight, life or liberty. No child has ever loved her father more than I love you.’

The king, perhaps a little weak and foolish in his old age, was well pleased with this speech, not realizing its insincerity. He called for a map of England.

မင်းနေပြည်တော်ရဲ့ ဘယ်အစိတ်အပိုင်းကို ဘယ် သမီးတော်ကို ခွဲဝေပေးမယ်ဆိုတာ ဘုရင်ကြီးက ဆုံးဖြတ်ပြီး ဖြစ်ပါတယ်၊ ဒါပေမယ့် သူ့ရဲ့ ဆုံးဖြတ်ချက်ကို ပြောမပြခင် သူက သမီးတော်သုံးယောက်ကို ဆင့်ခေါ်လိုက်တယ်၊ သမီး တော်တွေဟာ သူ့အပေါ်မှာ တကယ့်ကို စစ်စစ်မှန်မှန် ချစ်ခင်ခြင်း ရှိမရှိ သမီးသုံးယောက်ကို တစ်လှည့်စီ မေးမြန်း တော်မူတယ်။

အကြီးဆုံးသမီးတော် ဂွန်နရယ်က ပထမဦးဆုံး ဖြေဆိုပါတယ်။ "ဖခမည်းတော်. . . အရှင်မင်းကြီး. . .၊ ဖခမည်းတော်အား သမီးတော်သည် စကားလုံးလေးများဖြင့် ဖော်ပြနိုင်သည်ထက်ပင် ချစ်မြတ်နိုးရပါသည် ဘုရား၊ ဖခမည်းတော်အား. . . သမီးတော်၏ စက္ခုမြင်ကွင်း၊ အသက်. . . နှင့် လွတ်လပ်မှုတို့ထက်ပင် ပိုမို၍ ချစ်မြတ်နိုး သူ မရှိနိုင်ပါဘုရား. . . "လို့ လျှောက်တင်ပါတယ်။

ဘုရင်ကြီးက အသက်အရွယ် ဇရာထောက်လာတဲ့ အတွက် အားနည်းမှု. . .၊ ဆင်ခြင်ပိုင်းခြား ဝေဖန်နိုင်စွမ်း မရှိမှု. . တို့ကြောင့် သမီးတော်ရဲ့ လျှောက်တင်မှုကို ကောင်း စွာ သဘောကျကျေနပ်တော်မူတယ်၊ ဒီလျှောက်တင်မှုရဲ့ မစစ်မှန်မှုကို သိရှိသဘောပေါက်တော် မမူတော့ပါဘူး. .၊ ဘုရင်ကြီးက အင်္ဂလန်ပြည်ရဲ့ မြေပုံတစ်ခုကို တောင်းလိုက်



and pointing to it said: ‘Of all these bounds, from this line to this, I make you ruler. Yours and Algany’s children will be your heirs.’ Then he turned to Regan and said: ‘What does our second daughter, our dearest Regan, say? Speak.’

And Regan answered in the same insincere way as Goneril. ‘My feelings are the same as my sister’s,’ she told her father, ‘but she has not expressed half the love I feel for you. I am only happy when I am able to serve you.’

The old king smiled fondly at her and gave her, also, a third of his kingdom.

တယ်။ မြေပုံပေါ်မှာ (လက်နဲ့ထောက်)ညွှန်ပြပြီး၊ "ဒီနယ်နိမိတ်များအနက်. . . ဤနယ်နိမိတ်မှသည် ဤနယ်နိမိတ်အထိ သင့်အား အုပ်ချုပ်သူ ဘုရင်မအဖြစ် ခန့်အပ်တော်မူလိုက်သည်။ သင်နှင့် အယ်လ်ဘန်နီတို့၏ သားတော် သမီးတော်များသည် သင်၏အရိုက်အရာကို ဆက်ခံသူများဖြစ်ကြစေ. . . "(လို့ အမိန့်တော်ချပြီး ခွဲဝေပေးလိုက်ပါတယ်)

အဲဒီနောက် သူက ရီဂန်ဘက်လှည့်ပြီး မေးတော်မူတယ်၊ "ဒုတိယသမီးတော်. . . အချစ်ခင်ရဆုံး ရီဂန်ကရော ဘာများ လျှောက်တင်စရာရှိသလဲ. . . လျှောက်တင်စေ. . သမီးတော်"

ရီဂန်ကလည်း ဂွန်နရယ်လိုပဲ မစစ်မှန် မရိုးဖြောင့်တဲ့နည်းလမ်းနဲ့ပဲ လျှောက်တင်ပါတယ်။

"သမီးတော်၏ (ဖခမည်းတော်အပေါ်ထားသော မေတ္တာ)ခံစားချက်မှာ အစ်မတော်နှင့် ထပ်တူဖြစ်ပါသည် ဘုရား၊ သို့ရာတွင် အစ်မတော်၏ လျှောက်တင်ချက်မှာ သမီးတော်က ဖခမည်းတော်အား ချစ်သည့်ခံစားမှုထက်ဝက်ကိုပင် ဖော်ပြနိုင်စွမ်း မရှိခဲ့ပါဘုရား၊ သမီးတော်အနေဖြင့် ဖခမည်းတော်အား လုပ်ကျွေးသမှု ပြုစုနိုင်မှသာ စိတ်ချမ်းမြေ့ရပါသည်ဘုရား"

အိုမင်းနေပြီဖြစ်တဲ့ ဘုရင်ကြီးဟာ သူ(မ)ကို နှစ်လိုချစ်ခင်စွာပြုံးပြီး ကြည့်တော်မူတယ်၊ တိုင်းပြည်ရဲ့ သုံးပုံတစ်ပုံကိုလည်း ပေးအပ်တော်မူပါတယ်။



At last he turned to Cordelia, his dearly loved youngest daughter. ‘What can you say to deserve your share?’ he asked her gently.

Now, Cordelia had listened to her sisters’ speeches with increasing anger, knowing that they were only praising the old king so excessively because of their greed for their share of the kingdom. She, who truly loved her father, could not bear to have her real love compared with their false pretence. And so she answered a little bitterly: ‘I love you as I should: neither more nor less.’

နောက်ဆုံးမှာ သူ့အနေနဲ့ ယုယကြင်နာစွာချစ်ရတဲ့ သမီးအထွေးဆုံး ကော်ဒယ်လီယာဘက်ကို လှည့်လိုက်တယ်၊ သူက နူးညံ့သိမ်မွေ့စွာနဲ့ မေးတော်မူတယ်၊ "သမီးတော် ရသင့်ရထိုက်တဲ့ဝေစုကို ထိုက်တန်ကြောင်း. . . ဘာများ လျှောက်တင်စရာရှိပါသလဲ. . . သမီးတော်"

အခုအခါမှာ ကော်ဒယ်လီယာဟာ အစ်မတော်များရဲ့ လျှော်တင်ချက်ကို ကြားသိနားဆင်ခဲ့ပြီးဖြစ်ပါတယ်၊ သူတို့ဟာ သူတို့ရမယ့် မင်းနေပြည်တော်ဝေစုဆိုတဲ့ လောဘကြောင့် ဘုရင်ကြီးကို အလွန်အမင်းမြှောက်ပင့်လျှောက်တင်ကြကြောင်း သူ(မ)က သိရှိသလို (သူတို့ရဲ့ မစစ်မှန်မှုကို) ဒေါသမာန်ထ အမျက်တော်ရှမိတယ်။

သူ(မ)က ဖခမည်းတော်အပေါ် တကယ့်ကို စစ်စစ်မှန်မှန်ချစ်တဲ့ သမီးတော်တစ်ပါးဖြစ်တယ်၊ သူ(မ)ရဲ့ စစ်မှန်တဲ့ မေတ္တာတရားကို အစ်မတော်တွေရဲ့ မစစ်မမှန်. . . ဟန်ဆောင်မှုတွေ နှိုင်းယှဉ်ပြခိုင်းတာကို သည်းမခံနိုင်ဖြစ်မိတယ်၊ ဒါကြောင့်လည်း အနည်းငယ်မျှခက်ထန်စွာ လျှောက်တင်မိပါတယ်၊ "ဖခမည်းတော်အား. . . သမီးတော်က ချစ်သင့်ချစ်ထိုက်သည့် အတိုင်းအတာအထိ ချစ်ပါသည်ဘုရား. . . ချစ်သင့်ချစ်ထိုက်သည်ထက် ပိုလည်းမပိုသလို. . လျော့လည်း မလျော့ပါဘုရား"



Lear looked at her in astonishment, and cried: ‘You had better mend your speech, Cordelia, or you may lose your fortune.’

But Cordelia answered quietly: ‘My lord, you are my father. ‘You have cared for me fed me, and loved me: for these reasons I obey you, love you and greatly honour you. Why have my sisters married, if they say they love no one but you? If ever I have a husband, half my love and duty will belong to him.’

လီယာဘုရင်ကြီးက သူ(မ)ကို တအံ့တသြ ကြည့်ပြီး ပြောလိုက်တယ်. . . "လျှောက်တင်ချက်ကို ပြန်လည်ပြင်ဆင်လျှင် ကောင်းမြတ်ပေမည်. . သမီးတော် (ရမည့်) စည်းစိမ်ချမ်းသာတို့ ဆုံးရှုံးပေလိမ့်မည်. . . "

ဒါပေမယ့် ကော်ဒယ်လီယာက တည်ငြိမ်စွာပဲ ပြန်လည် လျှောက်တင်ပါတယ်၊ "အရှင်မင်းကြီး. . . အရှင်မင်းကြီးသည် ကျွန်တော်မျိုးမ၏ ဖခမည်းတော်ဖြစ်ပါတယ်၊ အရှင်မင်းကြီးသည် ကျွန်တော်မျိုးမအား ကြည့်ရှုစောင့်ရှောက်ခဲ့ပါသည်။ ကျွေးမွေးပြုစုခဲ့ပါသည်၊ ချစ်ခင်မြတ်နိုးတော်မူခဲ့ပါသည်၊ ဤအကြောင်းများကြောင့် ကျွန်တော်မျိုးမ မြတ်နိုးပါသည်၊ အလွန်တရာ ရိုသေကိုင်းရှိုင်း လေးစားပါသည်. . .။ အစ်မတော်များက ဖခမည်းတော်မှတပါး မည့်သူကိုမှ မချစ်ခင်ပါဟု. . ဆိုလျှင်၊ မည်သည့်အတွက်ကြောင့် ကြင်ရာခင်ပွန်းများနှင့် လက်ထပ်ခဲ့ပါသနည်း. . ? အကယ်၍သာ ကျွန်တော်မျိုးမ၌ ကြင်ရာခင်ပွန်း ရှိခဲ့ပါက ကျွန်တော်မျိုးမ၏ မေတ္တာနှင့်တာဝန် ထက်ဝက်ကို ခင်ပွန်းသည်က ပိုင်ဆိုင်ပါလိမ့်မည် ဘုရား. . . "



Do you mean this with all your heart?' asked her amazed father, and Cordelia answered that she did. 'So young and so untender! Lear said sadly. He found in hard to believe that his youngest daughter, who had always seemed to love him so greatly, had really only felt a sense of duty towards him.

The tired old king, hurt and unhappy at this unexpected speech by his favourite child, grew angry.

'If this is the truth,' he cried, 'then truth can be your dowry. You will get nothing more from me.

အံ့အားသင့်တော်မူနေတဲ့ ဖခမည်းတော် ဘုရင်ကြီးက "ဒီစကားများကို သမီးတော်၏ ရင်တွင်းစိတ်ရင်းမှ လျှောက်တင်ခြင်းဖြစ်ပါ၏လော သမီးတော်"လို့ မေးတော်မူတဲ့အခါ. . .၊ ကော်ဒယ်လီယာကလည်း စိတ်ရင်းအတိုင်း လျှောက်တင်ခြင်းဖြစ်ကြောင်း ဖြေဆိုတယ်။

လီယာဘုရင်ကြီးက ကြေကွဲစွာနဲ့ ရေရွတ်တော်မူတယ်။ "သိပ်ပြီး ငယ်ရွယ်သလို. . . သိပ်ပြီးတော့ အကြင်နာမဲ့လှပါလားကွယ်. . . "သူ့အပေါ် အမြဲထာဝရ အလွန့်အလွန် ချစ်ခင်ပုံရတဲ့ သမီးတော်လေးက တာဝန်အရ ချစ်ရတာပါလို့ လျှောက်တင်ချက်ကို သူ့အနေနဲ့ ယုံကြည်ဖို့ရာ တော်တော်ခက်နေပါတယ်၊ (မယုံကြည်နိုင်လောက်အောင် ဖြစ်နေပါတယ်။)

ပင်ပန်းနွမ်းလျ၊ အိုမင်းလှပြီဖြစ်တဲ့ ဘုရင်ကြီးဟာ အချစ်ဆုံးသမီးတော်လေးရဲ့ မျှော်လင့်မထားတဲ့ လျှောက်တင်ချက်ကြောင့် စိတ်ထိခိုက်၊ စိတ်မချမ်းမသာဖြစ်ပြီး အမျက် (ရာဇမာန်) ရှသွားပါတယ်။

"ဤအရာ (သမီးတော်၏လျှောက်တင်ချက်) သည် အမှန်တရားဆိုပါက၊ ထိုအမှန်တရားသာလျှင် သင်၏မင်္ဂလာလက်ဖွဲ့ပစ္စည်းဖြစ်စေ. . .၊ ဒီထက်ပို၍ ငါ့ထံမှ အခြားမည်သည့်အရာကိုမှ ရလိမ့်မည်မဟုတ်"လို့ ကြေညာလိုက်တယ်။



Turning to his smiling elder daughters, he divided Cordelia's share of the kingdom between them. 'As for you,' he said bitterly to Cordelia, 'I disown you for ever. You are no longer a daughter of mine.'

King Lear had a good and faithful courtier, the Earl of Kent, who now tried to persuade him to change his mind. But lear interrupted him with angry words and, after a bitter quarrel, told Kent to leave his kingdom for ever. So Kent left the court, calling upon the gods to shelter poor friendless Cordelia.

Lear then clled the two visiting noblemen, the King of France and the Duke of Burgundy, who wished to marry Cordelia.

ဘုရင်ကြီးက ပြုံးရွှင်နေတဲ့ သမီးတော်အကြီးနှစ်ပါး ဘက်ကို လှည့်လိုက်တယ်။ ကော်ဒယ်လီယာရသင့်ရထိုက်တဲ့ မင်းနေပြည်တော်ဝေစုကို နှစ်ပိုင်းခွဲပြီး. . .၊ သမီးတော် အကြီးနှစ်ပါးကို ပေးလိုက်တယ်၊ ကော်ဒယ်လီယာကိုတော့ ဘုရင်ကြီးက နာကြည်းစွာ ပြောဆိုအမိန့်ချတယ်။ "သင့် အတွက်ကတော့. . .၊ သင့်အား ငါ၏သမီးအဖြစ်မှ ထာဝရ စွန့်လွှတ်လိုက်ပြီ. . .၊ သင်သည် ငါ၏သမီးတော် မဟုတ် တော့ပြီ. . ."

လီယာဘုရင်ကြီးမှာ ကောင်းမြတ်ပြီး သစ္စာရှိတဲ့ နန်းတွင်းသားတစ်ယောက်ရှိတယ်၊ ကန့်အမတ်ကြီးပေါ့။ သူက ဘုရင်မင်းကြီးရဲ့ စိတ်တော်ပြောင်းလဲလာအောင် ကြိုးစားဖျောင်းဖျပါတယ်၊ ဒါပေမယ့် လီယာဘုရင်ကြီးက ဒေါသတကြီးနဲ့ ကြားဖြတ်ပြောဆိုတယ်၊ ပြင်းပြင်းထန်ထန် အခြေအတင် ပဋိပက္ခဖြစ်ပြီးတဲ့နောက်မှာ၊ (သစ္စာရှိ) ကန့် အမတ်ကို နေပြည်တော်ကနေ ထာဝရထွက်ခွာသွားဖို့ အမိန့်ချတယ်၊ "မိတ်ကောင်းဆွေမွန်မဲ့နေတဲ့ ကော်ဒယ် လီယာကို ရှင်နတ်မင်းတို့ ကာကွယ်စောင့်ရှောက်တော်မူ ပါ. ."လို့ တိုင်တည်ပြီး၊ ကန့်အမတ်ကြီးဟာ နန်းတော်ထဲ က ထွက်ခွာခဲ့ရပါတယ်။

အဲဒီနောက်မှာ. . . ကော်ဒယ်လီယာကို လက်ထပ် လိုတဲ့ ဧည့်သည်တော် အမျိုးကောင်းသားနှစ်ဦးဖြစ်တဲ့ ပြင်သစ်ဘုရင်နဲ့ ဘာဂန်ဒီမြို့စားကို ဘုရင်ကြီးက ခေါ်တော် မူတယ်။



'There she stands,' he said, pointing to Cordelia. 'Her only dowry is my curse She is no longer heir to any part of my kingdom. Do you still wish to marry her?'

Burgundy tried to persuade the king to give Cordelia her share of the kingdom, but when this was refused he said he could not marry her.

'Peace be with Burgundy!' said cordelia. 'And since it is my fortune that he loves, and not myself, I shall not be his wife.'

The King of France, however, gave a different answer.

ကော်ဒယ်လီယာကို ညွှန်ပြပြီး ပြောလိုက်တယ်။

"ကဲ. . . ဟိုမှာ ရပ်နေလေရဲ့. . .၊ သူ(မ)အတွက် မင်္ဂလာလက်ဆောင်ကတော့ ငါ့ရဲ့ "ကျိန်စာ"ပဲ ဖြစ်တယ်၊ ငါ့နေပြည်တော်. . . ဘယ်အစိတ်အပိုင်းရဲ့ ထီးမွေနန်းမွေခံမှု. . . မဟုတ်တော့ဘူး၊ မင်းတို့အခုထိ သူ(မ)ကို လက်ထပ်ချင်ကြသေးသလား. . . ?"

ဘာဂန်ဒီမြို့စားက. . . ကော်ဒယ်လီယာ ရသင့်ရထိုက်တဲ့ မင်းနေပြည်တော်ဝေစုကို ကော်ဒယ်လီယာအား ပေးသနားဖို့၊ ဘုရင်ကြီးသို့ ဖျောင်းဖျနားချလျှောက်တင်တယ်။ ဒါပေမယ့် အဲဒီလျှောက်တင်ချက်ကို ငြင်းပယ်လိုက်တဲ့အခါမှာတော့. . . သူက သူ(မ)ကို လက်မထပ်နိုင်တော့ပါဘူး. . . လို့ လျှောက်ထားတယ်။

"ဘာဂန်ဒီမြို့စား ငြိမ်းချမ်းပါစေ. . . "လို့ ကော်ဒယ်လီယာက ပြောလိုက်တယ်၊ "သူချစ်တာက ကျွန်ုပ်ရဲ့ စည်းစိမ်ချမ်းသာကိုသာ ဖြစ်တယ်၊ ကျွန်ုပ်အပေါ်မှာ မဟုတ်ပေဘူး. . . "

ပြင်သစ်ဘုရင်ကတော့ (ဘာဂန်ဒီနဲ့မတူ) ကွဲပြားတဲ့အဖြေကို ပေးပါတယ်။ သူက နူးညံ့သိမ်မွေ့စွာနဲ့ စကားကို ဆိုပါတယ်။



‘Fariest Cordelia,’ he said gently, ‘you are most rich, being poor. I love you for your virtues and your beauty.’ He turned to Lear and said: ‘Your penniless daughter King, thrown to my chance, is queen of us and ours, and our fair France.’

‘Take her,’ replied Lear. ‘Let her be yours, for she is no daughter of mine, and I shall never see her face again. Be gone without my love or blessing.’



"လှထိပ်ခေါင်တင်. . ကော်ဒယ်လီယာ၊ သင်သည် ဆင်းရဲသော်လည်း အချမ်းသာဆုံးလူ ဖြစ်ပေသည်၊ ကျွန်ုပ်သည် သင်၏ အထူးကောင်းမြတ်သည့် အကျင့်သီလနှင့် သင်၏အလှရူပါအတွက် ချစ်မြတ်နိုးမိပါသည်"

သူက လီယာဘုရင်ကြီးဘက်လှည့်ပြီး "အရှင်မင်းကြီး. . အရှင်မင်းကြီး၏ ငွေကြေးစည်းစိမ် ကင်းမဲ့နေသော သမီးတော်သည် ကျွန်ုပ်အတွက် ကံအကြောင်းတိုက်ဆိုင်၍ ကျွန်ုပ်တို့၏ ဧကရီမိဖုရား. . . ကျွန်ုပ်တို့၏ တင့်တယ်သာယာသော ပြင်သစ်ပြည်၏ ဧကရီမိဖုရားဖြစ်ပါပြီ. . ."

"သူမကို ခေါ်သွားလော့. . .၊ သင်၏ ကြင်ရာအဖြစ်ရှိစေလော့. . .၊ သူ(မ)သည် ငါ၏သမီးတော် မဟုတ်တော့ပြီ. . .၊ သူ(မ)၏ မျက်နှာကို နောက်ထပ်တစ်ခါ ဘယ်ခါမှ ငါမကြည့်တော့. . . ငါ၏ မေတ္တာတရားသော်လည်းကောင်း၊ ကောင်းချီးမင်္ဂလာသော်လည်းကောင်း မပါရှိဘဲ၊ ထွက်ခွာသွားကြလော့. . ."



Cordelia said goodbye to her sisters, and begged them to take good care of their old father; but they jealously told her to look after her own husband, and not try to teach them their duty. So Cordelia left the court with the King of France; but she was troubled about her father, fearing that his elder daughters might not treat him kindly.

Her fears were soon proved to be just. According to his plan, the old king was to live first with one daughter and then with the other. He would keep the title of King, and would have a hundred of his own kinghts to attend him.

ကော်ဒယ်လီယာက သူ(မ)ရဲ့ အစ်မတော်များကို ခွဲခွာနှုတ်ဆက်စကား. . . ဆိုပါတယ်။ ဖခင်အိုကြီးကို ကောင်းစွာ ဂရုစိုက်ဖို့လည်း တောင်းပန်ပါတယ်။ ဒါပေမယ့်. . . သူတို့က မနာလိုဝန်တိုစွာနဲ့ တုန့်ပြန်ပြောကြားပါတယ်၊ ကိုယ့်ခင်ပွန်းကိုသာ ကိုယ်ဂရုစိုက်ဖို့နဲ့၊ သူတို့လုပ်ဆောင်ရမယ့်တာဝန်အတွက် သူတို့ကို ဆရာလာမလုပ်ဖို့. . . ။

ဒါကြောင့် ကော်ဒယ်လီယာဟာ ပြင်သစ်ဘုရင်နဲ့အတူ နန်းတော်ထဲကနေ ထွက်ခွာခဲ့ရပါတယ်၊ ဒါပေမယ့်. . အစ်မတော်တွေဟာ ဖခမည်းတော်ရဲ့အပေါ်မှာ ကောင်းကောင်းမပြုစုမှာကို စိုးရိမ်ပြီး၊ ဖခင်ကြီးအတွက် ပူပင်သောကရောက်ရပါတယ်။

သူ(မ)ရဲ့ စိုးရိမ်မှုအတွေဟာ မကြာခင်မှာပဲ မှန်ကန်လာပါတော့တယ်။ သူချမှတ်ထားတဲ့ အစီအစဉ်အတိုင်းဆိုရင် ဘုရင်ကြီးဟာ ပထမဦးဆုံး သမီးတစ်ယောက်နဲ့ အတူနေမယ်၊ ပြီးတော့ နောက်တစ်ယောက်နဲ့ (အလှည့်ကျ)နေမယ်။ ဘုရင်ဆိုတဲ့ ဘွဲ့ထူးဂုဏ်ထူးကိုတော့ ထိန်းသိမ်းထားမယ်၊ သူ့ကို ပြုစုစောင့်ရှောက်ဖို့ စစ်သည်အမှုထမ်းတစ်ရာ လောက်ထားမယ်။



He first visited his eldest daughter, Goneril, and her husband, the Duke of Albany. He was his daughter's guest only and had no authority over her servants. He soon found that all Goneril's protestations of love towards him were false. She made no effort to attend to her father's needs and make him comfortable in her palace. She complained that he was always finding fault with her servants and ordering them about, and that his knights behaved as if they owned the place. She allowed her own servants to treat the king and his knights with careless rudeness, and they took no noticeof his orders, pretending not to hear them.

ပထမဦးဆုံး သမီးကြီး ဂွန်နရယ်နဲ့ သူ(မ)ရဲ့ ခင်ပွန်း အယ်လ်ဘန်နီမြို့စားထံ သွားရောက်လည်ပတ်တယ်။ သူဟာ သူ့သမီးတော်ရဲ့ ဧည့်သည်တော်မျှသာဖြစ်တယ်။ သူ(မ)ရဲ့ အစေအပါးတွေအပါ်မှာ ဘာသြဇာအာဏာမှ မရှိဘူး၊ မကြာမီမှာပဲ. . . ဂွန်နရယ်က သူ့အပေါ် ဘယ်လောက်ချစ်ကြောင်း အခိုင်အမာပြောဆိုခဲ့တာတွေဟာ အတုအယောင်တွေဖြစ်တယ်ဆိုတာ ဘုရင်ကြီး တွေ့မြင်သိရှိသွားပါတယ်၊ ဖခမည်းတော်ရဲ့ လိုအပ်ချက်တွေ ပြည့်ဝအောင် ကြိုးပမ်းပြုစုမှု. . .၊ သူ(မ)ရဲ့ နန်းတော်မှာ ခမည်းတော် သက်တောင့်သက်သာ အဆင်ပြေပြေဖြစ်အောင် လုပ်ဆောင်မှုတွေ မပြုဘူး။ သူ(မ)က အပြစ်တင်ငြီးတွားတယ်။ ဘုရင်ကြီးဟာ သူ(မ)ရဲ့ အစေခံတွေကို အမြဲတမ်း အပြစ်ရှာနေတယ်. . .၊ အမြဲတမ်း အမိန့်သြဇာပေးခိုင်းနေတယ်. .၊ ဘုရင့်ရဲ့ အမှုထမ်းတွေကလည်း သူ(မ)ရဲ့ နန်းတော်ကို သူတို့ပိုင်တဲ့ နေရာပုံစံမျိုးနဲ့ ပိုင်စိုးပိုင်နင်း နေထိုင်တယ်. . . (စသည်ဖြင့်)

ဘုရင်နဲ့ သူရဲ့ အမှုထမ်းတွေအပါ် အမှတ်မထင်. . . ရိုင်းရိုင်းစိုင်းစိုင်း ဆက်ဆံခွင့်၊ တစ်ခုခုစေခိုင်းရင် မကြားချင်ဟန်ဆောင်ပြီး၊ ဂရုမစိုက် ပမာမခန့်နေခွင့်. . . စသည်ဖြင့် သူ(မ)ရဲ့ အစေခံတွေကို ခွင့်ပြုထားပါတယ်။ သူတို့က(လည်း) သူရဲ့အမိန့်ပေး စေခိုင်းချက်တွေကို မကြားချင်ဟန်ဆောင်ပြီး ဂရုမစိုက် အလေးမထားဘဲ နေပါတယ်။



At first old man could not believe that Goneril was neglecting him intentionally, but he was soon forced to realise that he was not being treated with the respect due to a king. It seemed to the unhappy old man that everyone was against him; even his court jester, the amusing fellow who was paid to keep the king cheerful and in good heart, was amusing no longer, now that Cordelia had gone away. The poor Fool had loved her and missed her sadly.

But there was still someone who was anxious to help the old king in his loneliness. The Earl of Kent, when sent from the court, had not gone far away and now he returned, dressed as an ordinary servant. He had changed his apperance, so that no one recognised him, and he told Lear that he would like to work for his and would serve him faithfully.

ပထမတော့ ဘုရင်အိုကြီးဟာ သမီးတော် ဂွန်နရယ်က တရည်တရွယ် သူ့အပေါ် လျစ်လျူ ရှုထားတယ်ဆိုတာကို မယုံမကြည်နိုင်လောက်အောင်ပါပဲ၊ ဒါပေမယ့်. . . ဘုရင်တစ်ပါးနဲ့ လျော်ညီတဲ့ ဂါရဝတရားနဲ့ ပြုစုမှုတွေကို မရရှိပါလားလို့ မသိချင်လို့မနေရ. . . အတင်းအကျပ်သိရှိ သဘောပေါက်လာရပါတော့တယ်။ စိတ်မချမ်းမြေ့တဲ့ ဘုရင်ကြီးဟာ လူတိုင်းက သူ့ကို ဆန့်ကျင်နေကြပါလားလို့ ထင်မြင်ယူဆလာမိပါတယ်။ သူ့ရဲ့ နန်းတွင်းပျော်တော်ဆက်ကလေးလည်းထွက်ခွာသွားရပြီလေ. . .၊ ပျော်တော်ဆက်ကလေးက ကော်ဒယ်လီယာအပေါ် ချစ်ခင်မိတော့၊ (သူ(မ) မရှိတော့တဲ့အတွက်)ကြေကွဲ လွမ်းဆွတ်နေရပါတယ်။

ဒါပေမယ့် ဘုရင်ကြီးရဲ့ အထီးကျန် အဖော်မဲ့နေတဲ့အချိန်မှာ အကူအညီပေးဖို့ စိတ်အားထက်သန်သူတစ်ယောက်တော့ ရှိပါသေးတယ်၊ ကန့်အမတ်ကြီးဟာ နန်းတော်က နှင်ထုတ်ခံရတဲ့အခါမှာ ဝေးဝေးကို မသွားပါဘူး၊ အခု (ဘုရင်ကြီး ဒုက္ခရောက်နေတဲ့)အချိန်မှာ သာမန်အစေခံတစ်ယောက်လို ဝတ်စားပြီး (ဘုရင်ကြီးထံ ခစားအမှုထမ်းဖို့) ပြန်လာပါတယ်။ သူက သူ့ရဲ့ ရုပ်ရည်သွင်ပြင်ကို ပြောင်းလဲ(ရုပ်ဖျက်)ထားတဲ့အတွက် ဘယ်သူကမှ သူ့ကို မမှတ်မိပါဘူး၊ သူက ဘုရင်ကြီးအတွက် အမှုတော်ထမ်းလိုကြောင်း၊ သစ္စာရှိစွာ အမှုထမ်းမှာဖြစ်တဲ့အကြောင်း ဘုရင်ကြီးကို လျှောက်ထားတယ်။



'All right,' said the king. 'If like you no worse after dinner, you may stay with me.'

So Kent stayed with the king, and he very soon had an opportunity of proving his usefulness. One of Goneril's servants spoke very rudely to the old man, and the king lost his temper and struck him. This was, of course, an unfortunate occurrence, as it made Goneril angry; but the faithful Earl of Kent (or Caius, as he now called himself) supported the king's action and knocked the servant down calling him 'you base football player.'

Goneril's behaviour to her father grew daily worse; she was determined to drive him away from her palacr by her unkindness, because she did not want the trouble and expense of keeping him and his hundred knights.

"ကောင်းပြီလေ. . .၊ ညစာစားပြီးတဲ့အချိန်အထိ မောင်မင်းကို သဘောကျသေးတယ်ဆိုရင် မောင်မင်း ကျွန်ုပ်ထံ အမှုတော်ထမ်းနိုင်ပြီ"လို့ ဘုရင်ကြီးက မိန့်မြွက်တယ်။

ဒီလိုနဲ့ ကန့်ဟာ ဘုရင်ကြီးနဲ့အတူ နေထိုင်ပါတယ်။ သိပ်မကြာခင်မှာပဲ. . . သူ့ရဲ့ အသုံးဝင်မှုကို သက်သေပြဖို့ အစေခံတစ်ယောက်က ဘုရင်ကြီးကို အလွန်အမင်း ရှိုင်းရှိုင်းစိုင်းစိုင်း ပြောဆိုတယ်၊ ဘုရင်ကြီးက စိတ်ဆိုးပြီး ဒီအစေခံကို ရိုက်လိုက်တယ်။ ဒီလိုရိုက်လိုက်တာဟာ တကယ်ကို ကုသိုလ်ကံမကောင်းတဲ့ ဖြစ်ရပ်တစ်ခုပါပဲ။ ဘာကြောင့်ဆို ဝွန်နရယ်ကို ဒေါသပုန်ထသွားစေလို့ပါပဲ။ ဒါပေမယ့်. . . သစ္စာရှိ ကန့်အမတ် (ခုအခါမှာ သူ့ကိုယ်သူ ကေးယပ်လို့ ခေါ်တဲ့သူ)က ဘုရင်ကြီးရဲ့ လုပ်ဆောင်ချက်ကို ထောက်ခံကူညီတယ်၊ အဲဒီအစေခံကို "အောက်တန်းကယုတ်ညံ့တဲ့ အယုတ်တမာကောင်"လို့ ရေရွတ်ပြောဆိုပြီး အလဲထိုးပစ်လိုက်တယ်။

ဝွန်နရယ်ရဲ့. . . သူမ. . . ဖခင်အပေါ် ပြုမူဆက်ဆံပုံတွေဟာ နေ့စဉ်နဲ့အမျှ ပိုဆိုးလာတယ်။ ဘုရင်ကြီးနဲ့ သူ့ရဲ့ အမှုထမ်းတစ်ရာအတွက် ကုန်ကျစရိတ်တွေ၊ ဒုက္ခတွေကို မခံချင်တော့ဘူး၊ ဒါကြောင့် မကြင်မနာ (ရက်ရက်စက်စက်) ပြုမူဆက်ဆံခြင်းအားဖြင့် သူ(မ)ရဲ့ နန်းတော်မှ မောင်းထုတ်မယ်လို့ စိတ်ပိုင်းဖြတ် သန္နိဋ္ဌာန်ချထားပါတယ်၊



Lear at last realised that she did not want him, and said bitterly: 'Are you my daughter?' He called for his kinghts, and then turned to Goneril again. 'I'll trou ble you no longer,' he said to her. 'I still have another daughter who, I am sure, is kind and comforting I will go to Regan.'

The Duke of Albany, a good and kindly man who was unfortunately too weak-willed to go against his wife's wishes, now begged Lear to be patinent. 'My lord,' he said, 'I am guiltless. I do not know what has angered yo.'

'That may be so,' Lear answered hotly, 'but I'll stay here no longer, to be treated so unkindly by my own daughter.'

နောက်ဆုံး

မှာ လီယာဘုရင်ကြီးအနေနဲ့ သူ့သမီးဟာ သူ့ကို မလိုလားပါလား. . . လို့ သိ ရှိသဘောပေါက်ခဲ့ရပါတယ်။ "ငါ့သမီးမှ ဟုတ်ရဲ့လားကွာ. . . ?"လို့ နာနာကြည်းကြည်း ရေရွတ်ပြောဆိုမိတယ်၊ သူက သူ့ရဲ့ အမှုထမ်းတွေကို ခေါ်လိုက်တယ်၊ ပြီးတော့ ဂွန်နရယ်ဘက်လှည့်ပြီး "မင်းကို ဒုက္ခမပေးတော့ပါဘူးကွာ. . . ငါ့မှာ အခြားသမီးတစ်ယောက် ရှိပါသေးတယ်၊ ငါကျိန်းသေပြောရဲပါတယ်. . . သူ(မ)ကတော့ ကြင်ကြင်နာနာနဲ့ စိတ်နှလုံးကို သက်သာစေမှာပါ၊ ရီဂန်ဆီကို ငါသွားတော့မယ်. . . "လို့ ပြောလိုက်တယ်။

အယ်လ်ဘန်နီမြို့စားက ကောင်းမြတ်ပြီး ကြင်နာတတ်တဲ့သူဖြစ်တယ်၊ (ဒါပေမဲ့)ကုသိုလ်ကံမကောင်းတော့ သူ့အနေနဲ့ သူ့မိန်းမရဲ့ စိတ်ဆန္ဒကို ဆန့်ကျင်ဖို့ရန်အတွက် စိတ်ဓါတ်က ပျော့ညံ့လွန်းတယ်(မိန်းမကြောက်ရတယ်)၊ အခုတော့ သူက ဘုရင်ကြီးကို သည်းခံဖို့ လျှောက်ထားတယ်၊ "အရှင်မင်းကြီး. . . ကျွန်တော်မျိုးမှာ အပြစ်မရှိပါဘူး ဘုရား၊ ဘာအကြောင်းတွေက အရှင့်ကို ဒေါသထွက်စေတယ်ဆိုတာ ကျွန်တော်မျိုး မသိပါဘုရား"

လီယာဘုရင်ကြီးက စိတ်ဆိုးမာန်ဆိုးနဲ့ ပြန်ပြောလိုက်တယ်၊ "အေးလေ. . . ဟုတ်ကောင်း ဟုတ်မှာပေါ့. . . ဒါပေမယ့် ငါ့ရဲ့သမီးအရင်းက ငါ့ကို မကြင်မနာ ရက်ရက်စက်စက် ပြုမူဆက်ဆံတာကို ခံဖို့အတွက် ငါ. . . ဒီမှာ ဆက်မနေတော့ဘူး. . . "



He turned and cursed Goneril with bitter, heart-broken words, finishing: 'How sharper than a serpent's tooth it is to have a thankless child! away!'

When his kinghts gathered round him, he found that his cruel, strong-willed daughter had already dismissed half of them. He now had only fifty followers, instead of a hundred. And so the old king left the palace, accompanied by his fifty knights and the faithful Earl of Kent (or Caius), and followed by the Court Fool, who ran after him crying; 'Nuncle lear, nuncle Lear! Wait, and take a fool with thee.'



ပြီးတော့ သူက ဂွန်နရယ်ဘက်လှည့်ပြီး နာကြည်းကြေကွဲစွာ စကားလုံးတွေနဲ့ ကျိန်ဆဲပြောဆိုတယ်၊ "ကျေးဇူးကန်းတဲ့ ဆိုးဝါးလှပါကလား. . . သွားပါပြီကွယ်. . . သွားပါပြီ"လို့ သူ့စကားကို အဆုံးသတ်လိုက်ပါတယ်။

သူ့ရဲ့ အမှုထမ်းစစ်သည်တွေ သူ့ဘေးကို စုဝေးရောက်ရှိလာတဲ့အခါ သူ့ရဲ့ ရက်စက်တဲ့. . . စိတ်ဓါတ်ခက်ထန်လှတဲ့. . . သမီးက သူ့ရဲ့အမှုထမ်းတစ်ဝက်ကို အလုပ်ကနေ ထုတ်ပယ်ခဲ့ပြီဆိုတာကို တွေ့ရတော့တာပါပဲ။ ခုအခါမှာ သူ့ရဲ့ အခြွေအရံ တစ်ရာအစား၊ ငါးဆယ်ပဲ ရှိပါတော့တယ်၊ ဒီလိုနဲ့ ဘုရင်ကြီးက သူ့ရဲ့ အမှုထမ်းနောက်လိုက်ငါးဆယ်ရယ်၊ သစ္စာရှိ ကန့်အမတ် (ကေးယပ်)ရယ်တို့နဲ့အတူ နန်းတော်ထဲက ထွက်ခွာလာခဲ့ကြပါတယ်၊ နန်းတွင်းပျော်တော်ဆက်ကလေးကိုလည်း "ဘကြီးတော် လီယာ. . . ဘကြီးတော်လီယာ. . .၊ စောင့်ပါဦး. . .၊ ပျော်တော်ဆက်ငရှုတ်ကလေးကိုလည်း အရှင်မင်းကြီး ခေါ်သွားပါဦး. . ." လို့ အော်ဟစ်ရင်း နောက်က လိုက်လာပါတယ်။



Lear could not believe that his second daughter, Regan, would behave as badly as Goneril had done, and he set off for her palace, sending Caius on ahead with a letter to tell Regan of his arrival. But when he reached her palace, Caius found that Goneril had also sent a letter to her sister, and Regan and the Duke of Cornwall had decided to leave their home rather than to stay there and receive the king. They had gone to the castle of the Earl of Gloucdster, and Caius followed them there and gave them the king's letter.

While he was waiting for their answer, Caius met the same servant whom he had called 'a base football player' and knocked over for his rudeness to Lear at Goneril's house. They had another quarrel and a fight, and Caius was taken prisoner.





လီယာဘုရင်ကြီးအနေနဲ့ သူရဲ့ ဒုတိယ သမီးတော် ရီဂန်ဟာ သူ(မ)ရဲ့ အစ်မတော် ဂွန်နရယ်လိုပါပဲ၊ သူ့ကို ဆိုးဆိုး ရွားရွား ဆက်ဆံလိမ့်မယ်လို့ မယုံနိုင်ပါဘူး၊ ဒါကြောင့် သူရောက်လာမယ့်အကြောင်း စာတစ်စောင်ရေးတယ်၊ အဲဒီစာနဲ့အတူ ကေးယပ်ကို ရှေ့ကနေ ကြိုတင်လွှတ်လိုက်ပြီး သူ(မ)ရဲ့ နန်းတော်ဆီ ထွက်ခွာလာခဲ့ပါတယ်။ ဒါပေမယ့် ကေးယပ်ရောက်သွားတော့ ဂွန်နရယ်ကလည်း သူ့ညီမထံ စာတစ်စောင်ရေးပြီး ပေးပို့ထားတာကို တွေ့ရတယ်၊ ရီဂန်နဲ့ ကွန်းဝေါမြို့စားက ဘုရင်ကြီးကို သူတို့နန်းတော်မှာ လက်ခံ ပြုစုဖို့ထက် သူတို့နန်းတော်ကနေ (အခြားတစ်နေရာကို) ထွက်ခွာသွားဖို့ ဆုံးဖြတ်ခဲ့ကြတယ်။ သူတို့က ဂလောက် ဆက်စတာအမတ်ကြီးရဲ့ ရဲတိုက်ကို ထွက်ခွာသွားခဲ့ကြတယ်၊ ကေးယပ်က သူတို့ရဲ့ နောက်ကို လိုက်သွားပြီး ဘုရင်ကြီးရဲ့ စာကို ပေးပါတယ်။

သူတို့ရဲ့ ပြန်ကြားချက်အဖြေကို စောင့်ဆိုင်းနေစဉ် မှာ ကေးယပ်က ဂွန်နရယ်ရဲ့ အစေခံတစ်ယောက်ကို တွေ့ တယ်၊ ဘုရင်ကြီးကို ရိုင်းရိုင်းစိုင်းစိုင်း ဆက်ဆံလို့ "အောက် တန်းကျ ယုတ်ညံ့တဲ့ အယုတ်တမာကောင်"သူက ခေါ်ပြီး အလဲထိုးခဲ့တဲ့ အစေခံပေါ့၊ သူတို့နှစ်ယောက်ထပ်ပြီး ရန်ဖြစ် ကြတယ်၊ တိုက်ကြခိုက်ကြတယ်၊ ကေးယပ်က အချုပ် အနှောင်ခံ၊ အကျဉ်းချခံလိုက်ရတယ်၊



By the orders of the Duke of Cornwall, and against the will of the Earl of Gloucester (who loved his old king and did not wish to harm Lear's servant), Caius was put 'in the stocks': an old form of punishment, where a man was made to sit outside, no matter how bad the weather was, with his hands and legs imprisoned through the holes of a wooden framework.

Caius was left in the stocks all night, and here he was found by King Lear the next morning. The king, very angry at this crule treatment of his servant, went at once to Gloucester's castle to speak to Regan and her husband. He could only find the Earl of Gloucester, however, who told him apologetically that Regan and her husband refused to see Lear, saying that they were tired and ill after their journey. Here was the first sign that Regan was going to treat her father as rudely as Goneril had done,



ဂလောက် ဆက် စတာ

အမတ်ကြီးရဲ့ စိတ်ဆန္ဒနဲ့ ဆန့်ကျင်ပြီး (သူက သူ့ရဲ့ဘုရင် ဟောင်း. . . (လီယာဘုရင်ကြီး)ကို ချစ်ခင်တဲ့အတွက် ဘုရင်ကြီးရဲ့ အမှုထမ်းအစေခံကို ဒုက္ခမပေးချင်ဘူး) ကွန်း ဝေါမြို့စားရဲ့ အမိန့်နဲ့ ကေးယပ်ကို ထိပ်တုံးခပ်ပြီး အပြစ် ပေးပါတယ်၊ ထိပ်တုံးခတ်တယ်ဆိုတာ ရှေးဟောင်းအပြစ် ပေးတဲ့ ပုံစံတစ်မျိုးပေါ့၊ လူတစ်ယောက်ရဲ့ လက်နဲ့ခြေတွေ ကို အပေါက်ဖောက်ထားတဲ့ သစ်သားဘောင်မှာ ထည့်ပြီး ရာသီဥတု အခြေအနေ ဘယ်လောက်ဆိုးဆိုး အပြင်ဘက် လေဟာပြင်မှာ ပစ်ထားတာ. . .။

ကေးယပ်ကို တစ်ညလုံး ထိတ်တုံးခတ်ပြီးထားတယ်၊ နောက်နေ့မနက်ကျမှ သူ့ကို လီယာဘုရင်ကြီးက တွေ့တယ်၊ သူရဲ့အစေခံကို ခုလို ရက်ရက်စက်စက် ပြုမူတဲ့အတွက် ဘုရင်ကြီးက သိပ်ကို ဒေါသထွက်သွားတယ်။ ရီဂန်နဲ့ သူ့ ရဲတိုက်ကို ချက်ချင်းပဲသွားပါတယ်၊ ဒါပေမယ့်. . . ဘုရင်ကြီး ဟာ ဂလောက်ဆက်စတာအမတ်ကြီးနဲ့ပဲ တွေ့(ခွင့်)ရပါ တယ်။ ရီဂန်နဲ့ သူ့ယောက်ျားဟာ ခရီးပန်းပြီး နာမကျန်း ဖြစ်နေတဲ့အတွက် ဘုရင်ကြီးနဲ့တွေ့ဆုံဖို့ ငြင်းပယ်လိုက်တဲ့ အကြောင်း လျှောက်ထားတယ်။ ဒါဟာဖြင့် ရီဂန်ဟာ သူ့ အစ်မ ဂွန်နရယ်လို ရိုင်းရိုင်းစိုင်းစိုင်း ဆက်ဆံတော့မယ်ဆိုတဲ့ ပထမဦးဆုံး အမှတ်လက္ခဏာ၊ အရိပ်အယောင်ဖြစ်ပါတယ်၊



but Lear could not believe it. When Regan and the Duke of Cornwall came at last to welcome him, he at once told them about Goneril's unkindness, feeling sure of Regan's sympathy.

But this daughter was as cruel and unloving as the other. ' I pray you, sir, have patience,' Regan said. 'I cannot think that my sister would fail in her duty towards you. I am sure she had good reasons for all she did, and is not to blame in any way.'

Lear interrupted her angrily, but she continued: 'O, sir, you are old; you should be ruled and led by others who are younger and wiser than yourself. Go back to Goneril, and admit that you were wrong.'





ဒါပေမယ့် လီယာဘုရင်ကြီးအနေနဲ့ (ဒီဟာကို) မယုံနိုင်သလောက်ပါပဲ။ နောက်ဆုံး ရီဂန်နဲ့ ကွန်းဝေါမြို့စားက သူ့ကို ကြိုဆိုဖို့လာတဲ့အခါ ရီဂန်ရဲ့ ကရုဏာနဲ့ အကြင်နာလေးတော့ရရမှာ သေချာတယ်လို့ မှတ်ယူခံစားပြီး ဂွန်နရယ်ရဲ့ မကြင်နာမှု၊ ရက်စက်မှုတွေကို ချက်ချင်းပဲ သူတို့ကို ပြောပြလိုက်တယ်။

ဒါပေမယ့် ဒီသမီးကလည်း အခြားတစ်ယောက်လိုပဲ. . ရက်စက်တဲ့. . . မေတ္တာတရား ကင်းမဲ့သူဖြစ်ပါတယ်။ ရီဂန်က "တောင်းပန်ပါတယ်။ ခမည်းတော်. . .၊သည်းခံစိတ်ရှည်ပါ၊ ကျွန်မရဲ့ အစ်မတော်ဟာ ခမည်းတော်အပေါ်မှာ တာဝန်ဝတ္တရား ပျက်ကွက်လိမ့်မယ်လို့ ကျွန်မ မထင်ပါဘူး၊ ကျွန်မ ကျိန်းသေပြောရဲတာက သူ(မ)လုပ်ဆောင်ခဲ့သမျှမှာ လုပ်ရတဲ့ကောင်းမြတ်တဲ့ အကြောင်းရင်းတွေ ရှိမှာပါပဲ။ ဘယ်နည်းနဲ့မှ သူ့ကို အပြစ်တင်ဖို့ မရှိပါဘူး. . . "လို့ ပြောတယ်။

ဘုရင်ကြီး လီယာက ကြားဖြတ်ပြီး ဒေါသတကြီး ပြောတယ်၊ ဒါပေမယ့် သူ(မ)ကပဲ ဆက်ပြီး ပြောပါတယ်၊ "ခမည်းတော်က အသက်ကြီးပါပြီ၊ ခမည်းတော်ထက် အသက်ငယ်တဲ့ အမြော်အမြင်ရှိတဲ့ သူတွေရဲ့ အုပ်ချုပ်မှု၊ ဦးဆောင်မှုအောက်မှာ ခမည်းတော်ရှိသင့်ပါတယ်၊ ဂွန်နရယ်ဆီ ပြန်သွားပါ၊ ခမည်းတော်မှားကြောင်း ဝန်ခံလိုက်ပါ"



‘Am I to ask *her* forgiveness?’ Lear cried. ‘Must I say to her. “Dear daughter, I am old, and old age is unnecessary; I beg you on my knees for clothing, bed and food”?’

But Regan had no sympathy for him; nor could he get any answer to his question as to who had put Caius into the stocks. And then Goneril herself arrived, and Regan again told the old king to go back to her. ‘I am now away from home,’ she said to him. ‘I cannot entertain you when I myself am only Gloucester’s guest.’



"သူ(မ)ရဲ့ ခွင့်လွှတ်မှုကို ငါက တောင်းခံရဦးမှာလား. . . ?"လို့ လီယာဘုရင်ကြီးက အော်ပြောလိုက်တယ်။ "ငါက သူ(မ)ကို ချစ်ရတဲ့ သမီးရယ်. . .၊ အဖေ အိုပါပြီကွယ်၊ အိုမင်းခြင်း ဇရာဆိုတာ မလိုအပ်တော့ပါဘူး၊ (အသုံးမကျတော့ပါဘူး)အဖေ ဒူးထောက်ပြီး တောင်းပန်ပါတယ် သမီးရယ်၊ အဖေ့ကို ဝတ်စရာ၊ အိပ်စရာလေးများ ပေးကမ်းစွန့်ကြဲပါ. . ."လို့ ငါက တောင်းပန်ရမယ်လား. . . ?"

ဒါပေမယ့် ရီဂန်ဟာ သူ(မ)ရဲ့ ဖခင်အပေါ်မှာ ကြင်နာမှု၊ စာနာမှု မရှိပါဘူး၊ ကေးယပ်ကို ဘယ်သူ ထိတ်တုံးခတ်တာလဲ. . . ဆိုတဲ့၊ မေးခွန်းလေးကိုတောင် (အရေးလုပ်ပြီး) ဖြေဖော်မရပါဘူး၊ အဲဒီနောက် ဂွန်နရယ်ကိုယ်တိုင် ရောက်ရှိလာပါတယ်။ ဘုရင်အိုကြီးကို သူ(မ)နဲ့ ပြန်လိုက်သွားဖို့ ရီဂန်က ထပ်ပြောပါတယ်။

"ကျွန်မကိုယ်တိုင်က (ကိုယ့်အိမ်ကိုယ့်ယာ မဟုတ်တဲ့) အခြားမှာ ရောက်နေတာပါ။ ကျွန်မ ကိုယ်တိုင်က ဂလောက်ဆက်စတာရဲ့ ဧည့်သည်ဖြစ်နေတော့ အဖေ့ကို ဧည့်ခံပြီး မပြုစုနိုင်ပါဘူး"




But the king refused to return to Goneril. He said that heand his fifty men would stay with Regan replied, however, that she could only take in twenty-five of his knights; in fact, said she, what need had he of any? Her own servants could look after him.

And Lear at last realised, to the full, the wickedness and greed of his two elder daughters. He called upon the heavens to give him strength and patience. 'You see me here, you gods, a poor old man, wretched with age and sorrow,' he said. 'Teach me to bear my daughters' cruelty with a noble anger. Let no tears stain my face!' He turned wildly to his two stony-hearted daughters.

ဒါပေမယ့် ဂွန်နရယ်နဲ့ ပြန်လိုက်သွားဖို့ကို ဘုရင်ကြီးက ငြင်းပယ်လိုက်တယ်၊ သူနဲ့သူ့လူ ငါးဆယ်ဟာ ရီဂန်နဲ့ပဲ နေမယ်လို့ ပြောတယ်။ ဒါပေမယ့် ရီဂန်က ဘုရင်ကြီးရဲ့ အမှုထမ်း နှစ်ဆယ့်ငါးယောက်ကိုပဲ လက်ခံနိုင်မယ်လို့ ပြန်ပြောတယ်။ တကယ်တမ်းက ဒီအမှုထမ်းတွေ ဘာအတွက် လိုအပ်မှာလဲ. . . ?၊ သူ(မ)ရဲ့ အမှုထမ်း အစေခံတွေက ဘုရင်ကြီးကို စောင့်ရှောက်နိုင်တာပဲလို့ ဆိုတယ်။

နောက်ဆုံးကျတော့ လီယာဘုရင်ကြီးဟာ သူ့သမီး အကြီးနှစ်ယောက်ရဲ့ ကောက်ကျစ်စဉ်းလဲမှုတွေ၊ လောဘ တရားတွေကို အပြည့်အဝ သိရှိသဘောပေါက်သွားပါတယ်။ သူ့ကို ခွန်အားတွေ၊ ခံနိုင်ရည်ရှိမှု၊ သည်းခံမှုတရားတွေကို ပေးသနားတော်မူပါလို့ ကောင်းကင်ဘုံကို တိုင်တည်တောင်း ပန်တယ်။

"အို. . . နတ်မင်းတို့၊ မြင်လှည့်ပါလော့. .၊ သနား စရာကောင်းတဲ့ အဘိုးအိုတစ်ယောက်ပါ၊ ဇရာနဲ့ သောက တရားကြောင့် အတိဒုက္ခရောက်နေရသူပါ။ သမီးတော်တို့ရဲ့ ရက်စက်မှုကို မြင့်မြတ်တဲ့ စိတ်မာန်နဲ့ ခံနိုင်ရည်ရှိအောင် ကျွန်ုပ်အား သွန်သင်တော်မူပါ။ ကျွန်တော်မျိုး၏ မျက်နှာကို မျက်ရည်တို့ဖြင့် မစွန်းထင်းပါစေနှင့်. . .။ ခက်ထန်ရက်စက် တဲ့ သမီးနှစ်ယောက်ဘက်ကို လှည့်လိုက်တယ်၊ စိတ်ဓါတ် တွေ အပြင်းအထန်လှုပ်ရှားပြီးတော့ပေါ့. . .။



'You think I'll weep,' he cried. 'But no, I'll not weep! I have every reason for weeping, but my heart shall break into a thousand pieces before I'll weep. O Fool, poor Fool!' He turned to his faithful jester. 'Come let us go. I think I am going mad.'

And he slowly left the castle, supported by the Fool and Caius, and walked out into the stormy night.

In their wanderings, Caius lost sight of the old king, who now had only the fool to help him. They wandered through the storm together in search of shelter.

မင်းတို့ကတော့ ထင်မှာပဲ. . .၊ ငါဟာ မျက်ရည် ဖြိုင်ဖြိုင်ကျပြီး ငိုကြွေးမှာပဲ. . . လို့ ဒါပေမယ့် ငါ. . . ဘယ် ငိုလိမ့်မလဲ. . .၊ ငိုကြွေးဖို့အတွက်ကတော့ အကြောင်းရင်းတွေ ရှိတာပေါ့။ ဒါပေမယ့် (ငါငိုလိုက်မယ်ဆိုရင်)ငါ မငိုမီ၊ ငါရဲ့ အသည်းနှလုံးတွေ အစိတ်စိတ်အမွှာမွှာ ကွဲကြေသွားပေ လိမ့်မယ်. . .”လို့ပြောပြီး “အို. . . ပျော်တော်ဆက်ကလေး ရေ့. . . လာကွာ၊ ဒို့တွေ သွားကြပါစို့၊ ငါရူးတော့မယ် ထင် တယ်ကွာ. . .”လို့ သစ္စာရှိ နန်းတွင်းပျော်တော်ဆက် ကလေးဘက်လှည့်ပြီး ပြောလိုက်တယ်။

ပျော်တော်ဆက်ကလေးနဲ့ ကေးယပ်တို့ကို အားပြု တွဲခိုပြီး ဘုရင်ကြီးဟာ ရဲတိုက်ကနေ ဖြည်းဖြည်းချင်း ထွက် ခွာသွားပါတယ်။ မုန်တိုင်းထန်နေတဲ့ ညရဲ့ ပြင်ပလောက ထဲကို ထွက်ခွာသွားတာပါ။

အဲဒီလို လှည့်လည်သွားရင်းနေရင်း ကေးယပ်က မျက်စိလည် လမ်းပျောက်ပြီး၊ ဘုရင်ကြီးနဲ့ ကွဲသွားပါတယ်၊ အခုအခါမှာ ဘုရင်ကြီးကို ကူညီဖို့ ပျော်တော်ဆက်ကလေး တစ်ယောက်ပဲ ရှိပါတော့တယ်။ ခိုနားစရာလေးတစ်နေရာ ရဖို့အတွက် မုန်တိုင်းကြားကနေ သူတို့ရှာဖွေနေကြရပါ တယ်။



In the open, treeless countryside they had no protection from the wind and the rain, and the old king's mind was as cold and wandering as his body; he was slowly going mad with sorrow.

Caius, after a long and anxious serch, found them at last and took them to a broken-down old hut where they could shelter for the night. The old kings was, by this time, so disturbed in mind that he did not notice the storm, and Caius had difficulty in persuading him to enter the hut. When at last they went inside, they found that he hut was already occupied by a poor mad fellow who called himself 'Poor Tom,' and kept crying out 'Tom's a-cold' and singing foolish songs.

သစ်ပင်တစ်ပင်တောင်မရှိတဲ့ လေဟာပြင်ကွက်လပ်မှာ သူတို့အတွက် လေဒဏ်မိုးဒဏ်ကိုခံနိုင်ဖို့ အကာအကွယ်မရှိပါဘူး။ ဘုရင်ကြီးရဲ့ စိတ်အစဉ်ဟာလည်း အေးစက်ပြီးလှည့်လည်နေရတဲ့ သူ့ခန္ဓာကိုယ်ကြီးလိုပါပဲ။ အေးစက်တင်းမာပြီး ကယောင်ချောက်ချား ဖြစ်လာပါတယ်။ သောကတရားရဲ့ ဖိစီးမှုကြောင့် သူဟာ တဖြည်းဖြည်းချင်း စိတ်ဖောက်ပြန် ရူးသွပ်စ ပြုနေပါပြီ။

ကေးယပ်က စိတ်ပူပန်စွာနဲ့ အကြာကြီး ရှာပြီးတော့မှ . . နောက်ဆုံးမှာ သူတို့ကို တွေ့သွားပါတယ်၊ နောက်ဆုံးမှာ သူတို့ကို ပြုံကျနေတဲ့ တဲအိုလေးတစ်ခုဆီကို ခေါ်သွားပါတယ်၊ အဲဒီနေရာမှာ သူတို့တစ်ညတာ တည်းခိုနိုင်တာပေါ့။ အဲဒီအချိန်မှာ ဘုရင်ကြီးဟာ စိတ်ဓါတ်တွေ ကယောင်ချောက်ချားဖြစ်နေတဲ့အတွက် မုန်တိုင်းကျတာကိုတောင်မှ သတိမပြုမိ၊ မသိရှိတော့ပါဘူး။ ဘုရင်ကြီးကို တဲထဲဝင်ဖို့ ကေးယပ်အနေနဲ့ ခက်ခက်ခဲခဲ ဖျောင်းဖျရပါတယ်။

နောက်ဆုံး သူတို့တဲထဲရောက်သွားတော့ တဲထဲမှာ လူတစ်ယောက်က နေရာယူနှင့်ပြီးနေပြီ။ သူ့ကိုယ်သူ "သနားစရာကောင်းတဲ့ တွန်လို"လို့ခေါ်တဲ့ အရူးပေါ့။ သူက ပေါက်ကရသီချင်းတွေဆိုရင်း "တွန်တော့ အအေးမိပါပြီ၊ မိပါပြီ"နဲ့ အော်ဟစ်နေပါတယ်။



Old Lear, wandering in his mind, thought this poor mad man must have been treated like himself. 'Did you give everything to your two daughters?' he asked him. 'And are you too come to this?'

Now, 'Poor Tom' was really the elder son of the Earl of Gloucester: a good and faithful young man who had been turned out of his father's house because of the wicked lies of his younger brother, Edmund. Edmund was jealous and ambitious, and had turned their father against Edgar because he himself wished to become heir to the Earldom of Gloucester. And now Edgar, driven away from his home, had changed his appearance and pretended to be a mad man, in order to avoid recognition and imprisonment.

စိတ်ဓါတ်တွေ ကယောင်ချောက်ချား ဖြစ်နေတဲ့ ဘုရင်ကြီးလီယာက ဒီသနားစရာကောင်းတဲ့လူဟာ သူ့လိုပဲ ဆက်ဆံပြုမူခံခဲ့ရတာ ဖြစ်မှာပဲလို့ ထင်သွားတယ်၊ "မင်းလည်းပဲ. . . မင်းမှာရှိသမျှ အရာရာကို သမီးနှစ်ယောက်ကို ပေးလိုက်သလား? ပြီးတော့ ဒီကို ရောက်လာတာလား. . . ?"လို့ မေးလိုက်တယ်။

တကယ်တမ်းက "သနားစရာကောင်းတဲ့ တွန်" ဆိုတာ ဂလောက်ဆက်စတာအမတ်ကြီးရဲ့ သားအကြီးဖြစ်ပါတယ်၊ သူ့ရဲ့ ညီငယ် အက်ဒ်မန်ရဲ့ ကောက်ကျစ်စဉ်းလဲတဲ့ မုသား(ကုန်းချော)စကားတွေကြောင့် သူ့ဖခင်ရဲ့ အိမ်ကနေ နှင်ထုတ်ခံခဲ့ရတာဖြစ်ပါတယ်။ အက်ဒ်မန်ဟာ မနာလိုဝန်တို၊ လောဘသက္ကာရ ရည်ရွယ်ချက်ကြီးသူဖြစ်ပါတယ်။ ဂလောက်ဆက်စတာဆိုတဲ့ မျိုးမတ်ဘွဲ့ရာထူးနဲ့ (သူ့ဖခင်ပိုင်သတဲ့) နယ်ပယ်ကို သူတစ်ယောက်တည်း အမွေဆက်ခံချင်သူဖြစ်ချင်တယ်၊ ဒါကြောင့် အစ်ကိုဖြစ်သူ အက်ဒ်ဂါကို ဖခင်နဲ့ ရန်တိုက်ပေးတာဖြစ်ပါတယ်။ အခုအခါမှာ အိမ်ကနေ နှင်ထုတ်ခံရတဲ့ အက်ဒ်ဂါက ရုပ်ဖျက်ပြီး၊ အရူးတစ်ယောက်လို ဟန်ဆောင်နေတာဖြစ်ပါတယ်၊ သူ့ကို မှတ်မိသွားပြီး အကျဉ်းချထားမယ့်ဘေးကို ရှောင်ရှားဖို့လေ။



The Earl of Gloucester, ashamed of Regan's treatment of Lear, was wandering the country side in search of the old king, and during his absence the wicked Edmund was planning against his father and his king.

Lear had not been long in the hut when the Earl of Gloucester found him, and, with the help of Caius and Edgar (whom he did not recognise), the Earl took the king to a farmhouse near his castle. Later, Caius who had now shown himself as the Earl of Kent-took Lear Secretly to his own castle at Dover, a town on the south coast of England, opposite the coast of France. The Earl of Kent then sailed across to France and told Cordelia about her father's sufferings, and the Wickedness of Goneril and Regan. Cordelia persuaded her husband, the King of France, to send an army to England to fight for King Lear, and she herself crossed to Dover with the army.

ရီဂန်ရဲ့ လီယာဘုရင်ကြီးအပေါ် ပြုမူဆက်ဆံပုံကို ဂလောက်ဆက်စတာအမတ်ကြီးအနေနဲ့ ရှက်မိတယ်၊ (ဒါကြောင့်) ဘုရင်အိုကြီးကို ရှာဖို့ဆိုပြီး အနီးအနားမှာ လှည့်လည်သွားလာရှာဖွေနေပါတယ်၊ သူမရှိတဲ့အခိုက် အက်ဒ်မန်ဟာ သူ့ဖခင်ကိုရော သူ့ဘုရင်ကိုပါ ဆန့်ကျင်ဖို့ ကြံစည်နေပါတယ်။

လီယာဘုရင်ကြီး တဲထဲရောက်ပြီး မကြာမီမှာပဲ. .၊ ဂလောက်ဆက်စတာအမတ်ကြီးက တွေ့သွားပါတယ်။ ကေးယပ်တို့ အက်ဒ်ဂါ (သူ့ကို ယခုထိ သားဟု မမှတ်မိသေး)တို့ရဲ့ အကူအညီနဲ့ အမတ်ကြီးက သူ့. .ရဲတိုက်နားက လယ်တောအိမ်ကလေးတစ်ခုဆီ ဘုရင်ကြီးကို ခေါ်သွားတယ်။

နောက်ကျတော့ ကေးယပ်က သူဟာ ကန့်အမတ်ကြီးဖြစ်တယ်ဆိုတာ ပြောပြပြီး ဘုရင်ကြီးလီယာကို ဒိုဗာမြို့မှာရှိတဲ့ သူ့ရဲ့ ရဲတိုက်ဆီသို့ တိတ်တိတ်လေး ခေါ်သွားပါတယ်။ ဒိုဗာမြို့ဟာ အင်္ဂလန်နိုင်ငံတောင်ဘက်ပိုင်း ကမ်းခြေမှာရှိပြီး၊ ပြင်သစ်ကမ်းခြေနဲ့ မျက်နှာချင်းဆိုင်မှာ ဖြစ်ပါတယ်။ ကန့်အမတ်ကြီးဟာ ပြင်သစ်ပြည်သို့ (သင်္ဘောနဲ့) ရွက်လွှင့်သွားရောက်တယ်၊ ကော်ဒယ်လီယာကို သူ့ဖခင်ရဲ့ ခံစားနေရတဲ့ ဒုက္ခတွေ. . .၊ဂွန်နရယ်နဲ့ ရီဂန်တို့ရဲ့ ကောက်ကျစ်စဉ်းလဲမှုတွေကို ပြောပြတယ်။ ဒီတော့ ကော်ဒယ်လီယာက ကြင်ရာတော် ပြင်သစ်ဘုရင်ကို ဘုရင်ကြီး လီယာအတွက် တိုက်ခိုက်ရန် စစ်တပ်ကြီးတစ်တပ် အင်္ဂလန်သို့ လွှတ်ပေးဖို့. . . လျှောက်ထားပန်ကြားတယ်။ သူ(မ)ကိုယ်တိုင်လည်း ပြင်သစ်စစ်တပ်ကြီးနဲ့အတူ ဒိုဗာကို လိုက်သွားတယ်။



The good Earl of Gloucester had his eyes put out by Regan and the Duke of Cornwall, as a punishment for helping Lear. They then turned him out of his castle; but the faithful Edgar, still pretending to be 'Poor Tom,' led his father to Dover, where they joined King Lear. The poor old king was sadly changed: he had now gone quite mad, and did not recognise them. He talked strangely, and wandered about wearing a crown of leaves and flowers.

Nor did he recognise Cordelia when he first saw her again; but gradually his madness disppeared. 'I am a very foolish fond old man,' he said to cordelia, 'and I fear I am not in my perfect mind. I think I should know you, yet I am doubtful.'

လီယာဘုရင်ကြီးကို ကူညီမိလို့ ပြစ်ဒဏ်ပေးတဲ့ အနေနဲ့. . . ဂလောက်ဆက်စတာအမတ်ကြီးရဲ့ မျက်လုံးတွေကို ရီဂန်နဲ့ ကွန်းဒေါ့မြို့စားက ဖောက်ထုတ်ပစ်လိုက်တယ်။ ပြီးတော့ သူ့ကိုပါ ရဲတိုက်ကနေ နှင်ထုတ်ပစ်လိုက်ကြတယ်။ ဒါပေမယ့် သစ္စာရှိတဲ့ အက်ဒ်ဂါက အခုထိ "သနားစရာ တွန်အဖြစ် ဟန်ဆောင်ထားဆဲ. . နဲ့ပဲ၊ သူ့ရဲ့ ဖခင်ကို ဒိုဗာမြို့ကို ခေါ်သွားတယ်၊ အဲဒီမှာ သူတို့တွေက လီယာဘုရင်ကြီးနဲ့ ပူးပေါင်းလိုက်ကြတယ်။ သနားစရာကောင်းတဲ့ ဘုရင်ကြီးဟာ ကြေကွဲဖွယ်ကောင်းစွာ ပြောင်းလဲသွားပါပြီ။ အခုအခါမှာ သူဟာ လုံးဝကို ရူးသွပ်သွားပါပြီ၊ သူတို့ကိုလည်း မမှတ်မိတော့ပါဘူး၊ ထူးထူးဆန်းဆန်းတွေ လျှောက်ပြောတယ်၊ သစ်ရွက်တွေ. . . ပန်းပွင့်တွေနဲ့ လုပ်ထားတဲ့ သရဖူကို ဆောင်းရင်း လှည့်လည်သွားလာနေပါတယ်။

ပထမဆုံးအကြိမ် ကော်ဒယ်လီယာကို တွေ့တဲ့အခါမှာလည်း သူမမှတ်မိပါဘူး။ ဒါပေမယ့် တဖြည်းဖြည်းချင်း သူ့ရဲ့ ရူးသွပ်မှုတွေ ပျောက်ပျက်သက်သာလာပါတယ်။ "ငါဟာ သိပ်ကို မိုက်မဲ၊ ညဏ်တိမ်တဲ့ အဘိုးကြီးပါပဲကွာ"လို့ သူက ကော်ဒယ်လီယာကို ပြောပါတယ်။ "ငါ့စိတ်တွေ လုံးဝပြန်ပြီး ကောင်းမှကောင်းပါ့မလားလို့ ငါစိုးရိမ်မိတယ်၊ မင်းကို ငါသိသင့်တယ်လို့ထင်တယ်၊ ဒါပေမယ့်. . . ဇဝေဇဝါဖြစ်နေတယ်၊"



He looked unhappily at the people round him, still fearing that he might receive unkindness. ‘Do not laugh at me,’ he begged them ‘Perhaps I am being foolish, but I think this lady is my child Cordelia.’

‘Oh, I am, I am!’cried Cordelia, overjoyed that her father knew her at last.

But the sorrowful old man, remern bering her sisters’ unkindness to him, could not believe that Cordelia still loved him. ‘You have some reason for not loving me. They had none,’ he said.

ဘုရင်ကြီးက သူ့ပတ်ဝန်းကျင်မှာရှိတဲ့ လူတွေကို စိတ်မချမ်းမြေ့စွာနဲ့ ကြည့်လိုက်တယ်၊ မကြင်နာရက်စက်မှုတွေကို သူရရှိ(ခံစားရ)ဦးမှာလားလို့ စိုးရိမ်စိတ်နဲ့ပေါ့။ “ငါ့ကို ရယ်မောလှောင်ပြောင်မပြုကြပါနဲ့ကွာ. . . ”လို့ သူက တောင်းပန်တယ်။ ငါရူးသွပ်နေတာလဲ ဖြစ်ချင်ဖြစ်မှာပါ. . ဒါပေမယ့်. . . ငါထင်တယ်. .၊ ဒီအမျိုးသမီးလေးဟာ ငါ့ သမီးလေး ကော်ဒယ်လီယာလို့ ထင်တယ်. . . ”

နောက်ဆုံးကျတော့ ဖခင်ကြီးက သူ့ကို (မှတ်မိ) သိသွားပြီဆိုပြီး သိပ်ကို ဝမ်းသာသွားတဲ့ ကော်ဒယ်လီယာက “ကျွန်မ. . ကျွန်မ. . (ကော်ဒယ်လီယာ)ပါ. . . ”လို့ ပြောလိုက်တယ်။

ဒါပေမယ့်. . . ပရိဒေဝမီး တောက်လောင်နေတဲ့ ဘုရင်အိုကြီးက သူ(မ)ရဲ့ အစ်မတော်ကြီးတွေရဲ့ မကြင်နာရက်စက်မှုတွေကို သတိရဆဲမို့၊ ခုအထိ ကော်ဒယ်လီယာက သူ့ကို ချစ်နေဆဲဆိုတာကို မယုံကြည်နိုင်လောက်အောင် ဖြစ်နေပါတယ်။ “မင်းက ငါ့ကို မချစ်ဘူးဆိုတာ အကြောင်းရင်း နည်းနည်းတော့ ရှိတယ်၊ သူတို့မှာ ဘာအကြောင်းမှ မရှိပါဘူးကွာ. . . လို့ ဆိုတယ်။



wish was to bring him back to happiness, and he said gently: ‘Forgive and forget: I am old and foolish.’

The time had come for the two enemy armies to meet: the French army, led by Edgar and the Earl of Kent; and the English one, led by the Dukes of Albany and Cornwall and the wicked Edmund. Goneril and Regan went with their husbands, chiefly because they wanted to be near Edmund. This evil young man wished to become King of Englan, and so he made love to both Goneril and Regan, in the hopes that he would, in the end, be able to marry one of them, and so gain possession of half the kingdom.



ဘုရင်ကြီး ပြန်လည်ပြီး ပျော်ရွှင်ချမ်းမြေ့လာစေချင်တဲ့ ဆန္ဒပဲ သူ(မ)မှာရှိပါတယ်. . . လို့ ကော်ဒယ်လီယာက ပြောတော့၊ ဘုရင်ကြီးက နူးညံ့သိမ့်မွေ့စွာနဲ့ စကားဆိုတယ်“(ပြီးခဲ့တဲ့ အရာရာကို) ခွင့်လည်းလွှတ်ပါ၊ မေ့လည်းမေ့ပစ်လိုက်ပါတော့၊ ငါဟာ အသက်ကြီးပြီး အဆင်ခြင်မဲ့ခဲ့လို့ပါ. . . ။”

ရန်သူစစ်တပ်ကြီးနှစ်ခု တွေ့ဆုံကြတဲ့အချိန် ရောက်ရှိလာပါတယ်။ ပြင်သစ်စစ်တပ်ကို ကန့်အမတ်ကြီးနဲ့ အက်ဒ်ဂါတို့က ဦးဆောင်တယ်။ ဂွန်နရယ်နဲ့ ရီဂန်တို့လည်း သူတို့ရဲ့ ခင်ပွန်းသည်တွေနဲ့အတူ လိုက်ပါလာကြပါတယ်၊ အဓိကအကြောင်းရင်းနဲ့ကတော့ သူတို့ဟာ အက်ဒ်မန်ရဲ့ အနီးမှာ ရှိနေချင်ကြလို့ပါပဲ။

ဒီဆိုးယုတ်လှတဲ့ လူငယ်လေးဟာ အင်္ဂလန်ပြည့်ရှင်ဘုရင်ဖြစ်ချင်တယ်၊ ဒါကြောင့် ဂွန်နရယ်နဲ့ ရီဂန်တို့နှစ်ယောက်လုံးကို ချစ်ကြိုးသွယ်တယ်၊ နောက်ဆုံးကျရင် သူတို့နှစ်ယောက်အနက် တစ်ယောက်ယောက်နဲ့ လက်ထပ်နိုင်လိမ့်မယ်၊ ဒါဆိုရင် မင်းနေပြည်တော်ရဲ့ ထက်ဝက်ကို ပိုင်ဆိုင်ရယူနိုင်မှာပဲဆိုတဲ့ မျှော်လင့်ချက်နဲ့ပေါ့။



In the battle which followed, the French army was unfortunately defeated, and Lear and Cordelia were taken prisoner by the wicked Edmund. He sent them to prison and gave secret orders that Cordelia was to be killed. He was determined that she-one of the rightful heirs to England-should not stand between him and his ambition to be king.

Meanwhile, there was hatred and bitterness in the English camp, Regan's husband had died, and she immediately announced that she intended to marry Edmund; but Goneril, angry and jealous, poisoned her sister and Regan also died.



ကံမကောင်း. . . အကြောင်းမလှဘဲ. . . ပြင်သစ်စစ်တပ်က စစ်ပွဲမှာ ရှုံးနိမ့်ပါတယ်၊ လီယာ ဘုရင်ကြီးနဲ့ ကော်ဒယ်လီယာတို့ဟာ ကောက်ကျစ်တဲ့ အက်ဒ်မန်ရဲ့ ဖမ်းဆီးအကျဉ်းချထားခြင်း ခံရပါတယ်။ သူတို့ကို ထောင်သို့ ပို့ပြီးတဲ့နောက်မှာ ကော်ဒယ်လီယာကို သတ်ဖို့ လျှို့ဝှက်အမိန့်တွေ ပေးလိုက်ပါတယ်။ အင်္ဂလန်ပြည်ရဲ့ တရားဝင်ထီးမွေနန်းမွေနဲ့ သူကြားမှာ ရပ်တည်ခွင့် မပေးဘူးလို့ သူက ဆုံးဖြတ်သန္နိဋ္ဌာန် ချထားပါတယ်။

အဲဒီအချိန်မှာ. . . အင်္ဂလိပ်စစ်စခန်းအတွင်း. . . အမုန်းတရားတွေ၊ နာကြည်းမှုတွေ ရှိနေပါတယ်။ ရီဂန်ရဲ့ ခင်ပွန်းက သေဆုံးသွားတယ်၊ အက်ဒ်မန်နဲ့ လက်ထပ်ထိမ်းမြားဖို့ ရည်ရွယ်ကြောင်း ရီဂန်က ချက်ချင်းကြေညာတယ်။ ဒါပေမယ့်. . . ဒေါသလည်းထွက်၊ မနာလိုလည်းဖြစ်နေတဲ့ ဂွန်နရယ်က သူ့ညီမကို အဆိပ်ခတ်သတ်လို့၊ ရီဂန်လည်း သေဆုံးသွားပါတယ်. . .။



And now the Duke of Albany, whose greatest fault had been his weakness of will, turned against his wicked wife. He sent her to prison for her crimes, and she killed herself in anger and despair. Finally the evil Edmund was killed in battle by his brother Edgar.

The Earl of Kent was able to tell all this to King Lear, but it is doubtful whether the old man understood the news. His mind had failed again when Cordelia died, and he could not be persuaded to leave her body.

အခုအခါမှာတော့ "စိတ်ဓါတ်ပျော့ညံ့ (မိန်းမကြောက်ရ)မှု တစ်ခုတည်းသော အကြီးမားဆုံးဖြစ်မှုရှိတဲ့ အယ်လ်ဘန်နီမြို့စားက ကောက်ကျစ်စဉ်းလဲတဲ့ သူ့ကြင်ရာတော်ကို အရေးယူပါတယ်၊ သူ(မ)ရဲ့ ရာဇဝတ်မှုတွေအတွက် ထောင်သွင်းအကျဉ်းချထားလိုက်ပါတယ်။ ဒေါသလည်းထွက်၊ စိတ်လည်းပျက်ပြီး မျှော်လင့်ချက်မဲ့စွာနဲ့ ဂွန်နရယ်ဟာ ကိုယ့်ကိုယ်ကို သတ်သေလိုက်ပါတယ်။ နောက်ဆုံးမှာ. . . ဆိုးယုတ်လှတဲ့ အက်ဒ်မန်ဟာ သူ့နောင်တော် အက်ဒ်ဂါရဲ့ လက်ချက်နဲ့ တိုက်ပွဲမှာ ကျဆုံးသွားပါတယ်။

ကန့်အမတ်ကြီးက ဒီကိစ္စတွေအားလုံး ဘုရင်ကြီးသို့ လျှောက်တင်ပြောကြားနိုင်ခဲ့ပါတယ်၊ ဒီသတင်းစကားတွေကို ဘုရင်ကြီး နားလည်နိုင်စွမ်းရှိပါ့မလား. . . ဆိုတာကတော့ မဝေခွဲနိုင်စရာပါ။ သူ့ရဲ့စိတ်တွေဟာ တစ်ခါထပ်ပြီး ဖောက်ပြန်ရူးသွပ်သွားပြန်ပါပြီ။ ကော်ဒယ်လီယာ သေဆုံးတဲ့အခါ သူ့သမီးလေးရဲ့ ရုပ်အလောင်းကနေ ဖယ်ခွာဖို့ ဘယ်လိုမှ ဖျောင်းဖျလို့ မရခဲ့ပါဘူး။



'She's gone for ever!' he cried despairingly. 'She'll come no more-never, never, never, never!' And the broken-hearted old man fell dead beside his beloved daughter.

And so ended, in sorrow and despair, the long life of the good King Lear, but, although he seemed to have lost everthing, the battle had not been in vain. His two wicked and cruel daughters were dead, and also the ambitious Edmund. The crown passed to the Duke of Albany, who became king of all England. Helped by Edgar, who became Earl of Gloucester when his old, blind father died, and by the good Earl of Kent, the Duke of Albany ruled well and wisely, and England became a rich and peaceful land once more.

မျှော်လင့်ချက် ကင်းမဲ့ပြီး စိတ်ပျက်ညှိုးငယ်စွာ အော်ဟစ်ငိုကြွေးပါတယ်၊ "သူ(မ) ထာဝရခွဲခွာသွားခဲ့ပြီ. .၊ သူ(မ)လာမှာ မဟုတ်တော့ပါဘူး၊ ဘယ်တော့မှ. . . ဘယ်တော့မှ. . . ဘယ်တော့မှ. . . ဘယ်တော့မှ. . . "ပြီးတော့ ရင်ကွဲနာကျ ပူဆွေးသောကရောက်နေတဲ့ ဘုရင်အိုကြီးဟာ သူ့ရဲ့ချစ်စွာသော သမီးလေးရဲ့ဘေးမှာ လဲကျသေဆုံးသွားပါတယ်။

ရှည်လျားလှတဲ့ လီယာဘုရင်ကြီးရဲ့ ဘဝဟာ ဒီလိုနဲ့ ကြေကွဲစိတ်ပျက်ဖွယ်ရာ နိဂုံးချုပ်ခဲ့ပါတယ်၊ သူ့အတွက် အရာရာ ဆုံးရှုံးခဲ့တယ်လို့ ထင်ရပေမယ့်လည်း စစ်ပွဲက အချည်းနှီးမဖြစ်ပါဘူး။ သူ့ရဲ့ ကောက်ကျစ်ရက်စက်တဲ့ သမီးနှစ်ယောက် သေဆုံးခဲ့ရတယ်၊ လောဘရမ္မက်ငမ်းငမ်းတက်တဲ့ အက်ဒ်မန်လည်းပဲပေါ့. . .။ အင်္ဂလန်ပြည် ဘုရင့်သရဖူဟာ အယ်လ်ဘန်နီမြို့စားကြီးထံ ရောက်ရှိသွားခဲ့တယ်၊ သူဟာ အင်္ဂလန်တစ်ပြည်လုံးရဲ့ ဘုရင်ဖြစ်ခဲ့တယ်။ မျက်စိနှစ်ကွင်း အလင်းမရတော့တဲ့ ဖခင်အိုကြီး သေဆုံးတဲ့အခါ ဂလောက်ဆက်စတာ အမတ်ကြီးဖြစ်လာတဲ့ အက်ဒ်ဂါရဲ့ အကူအညီ. . .၊ ကောင်းမြတ်တဲ့ ကန့်အမတ်ကြီးရဲ့အကူအညီ. . . တို့နဲ့ အယ်လ်ဘန်နီမြို့စားကြီးဟာ တိုင်းပြည်ကို ကောင်းကောင်းမွန်မွန် အမြော်အမြင်ရှိရှိ အုပ်ချုပ်စိုးစံခဲ့ပါတယ်၊ အင်္ဂလန်ပြည်ကြီးဟာလည်း ချမ်းသာကြွယ်ဝ ငြိမ်းချမ်းတဲ့ တိုင်းပြည်ကြီးတစ်ပြည်အဖြစ် တစ်ခါထပ်ပြီး ဖြစ်ထွန်း(ပေါ်ပေါက်)လို့ လာပါတယ်။

**မောင်သိန်းလွင်**

